# THE 38 RULES FOR A BEATIFIC LIFE

STORY CARTOONS

ILLUSTRATION
MYO MAN




# (၃၈) ဖြာ မင်္ဂလာ

ပုံပြင်ကာတွန်းများ




ပန်းချီ
မျိုးမာန်

# မာတိကာ


| အကြောင်းအရာ | စာမျက်နှာ |
| --- | --- |
| (၁) လူမိုက်ကို မပေါင်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၄ |
| (၂) ပညာရှိသူတို့ကို ဆည်းကပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၁ |
| (၃) ပူဇော်ထိုက်သူကို ပူဇော်ရခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၈ |
| (၄) သင့်တင့်လျောက်ပတ်သည့်အရပ်၌ နေခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၂၄ |
| (၅) ရှေးကပြုဖူးသော ကောင်းမှုသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၂၉ |
| (၆) ကိုယ်နှင့်စိတ်ကို တည်ဆောက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၃၃ |
| (၇) အကြားအမြင်များသူဖြစ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၃၉ |
| (၈) အပြစ်ကင်းစွာ တတ်မြောက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၄၃ |
| (၉) ကျင့်ဝတ်တို့ကောင်းစွာလိုက်နာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၄၇ |
| (၁၀) စကားကို ကောင်းစွာပြောတတ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၅၁ |
| (၁၁) မိဘကို လုပ်ကျွေးပြုစုခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၅၇ |
| (၁၂) သားမယားကို ထောက်ပံ့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၆၀ |
| (၁၃) အရှုပ်အထွေးမရှိသော အလုပ်ကိုလုပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၆၃ |
| (၁၄) စွန့်ကြဲပေးကမ်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၆၇ |
| (၁၅) သုစရိုက်တရားကို ကျင့်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၇၁ |
| (၁၆) ဆွေမျိုးသားချင်းတို့ကို ကူညီထောက်ပံ့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၇၅ |
| (၁၇) အများအကျိုးကို ဆောင်ရွက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၇၉ |
| (၁၈) မကောင်းမှုကို စိတ်ဖြင့်ပင် ဝေးစွာရှောင်ကြဉ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၈၂ |
| (၁၉) မကောင်းမှုကို ကိုယ်နှုတ်တို့ဖြင့် ရှောင်ကြဉ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၈၆ |
| (၂၀) အရက်သေစာ မသောက်စားခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၈၉ |
| (၂၁) ကုသိုလ်တရားကို မမေ့မလျော့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၉၂ |
| (၂၂) ရိုသေအပ်သောသူကို ရိုသေခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၉၇ |
| (၂၃) မိမိကိုယ်ကို နှိမ့်ချခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၀၂ |
| (၂၄) ရှိသမျှနှင့်ရောင့်ရဲတင်းတိမ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၀၅ |
| (၂၅) သူတစ်ထူး၏ ကျေးဇူးကို သိတတ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၀၈ |
| (၂၆) သင့်လျော်သောအခါ တရားနာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၁၅ |
| (၂၇) အရာရာသီးခံခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၁၈ |
| (၂၈) ဆိုဆုံးမလွယ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၂၃ |
| (၂၉) ရဟန်းမြတ်တို့ကို ဖူးမျှော်ရခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၂၆ |
| (၃၀) သင့်လျော်သောအခါ တရားစကားဆွေးနွေးမေးမြန်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၂၈ |
| (၃၁) ခြိုးခြံချွေတာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၃၁ |
| (၃၂) မြတ်သောအကျင့်ကို ကျင့်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၃၄ |
| (၃၃) အရိယသစ္စာကို သိမြင်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၃၇ |
| (၃၄) နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၄၂ |
| (၃၅) လောကဓံနှင့် ကြုံသော်လည်း စိတ်မတုန်လှုပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၄၆ |
| (၃၆) စိုးရိမ်သောက မရှိခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၅၀ |
| (၃၇) ရမ္မက်မြူကင်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၅၄ |
| (၃၈) ဘေးရန်မရှိခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။ | ၁၅၈ |

## ထုတ်ဝေသူ၏ ဆန္ဒ

ယနေ့လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေးစာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ဆေးရောင်စုံ ကာတွန်းရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ်ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန်ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့်ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုးဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Goodwill

I have tried to the best of my abilities for this color cartoon illustration to the young people especially for the children so that they can read religious books.

My intention is for the children and the young readers this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned with nationality, religion and help, teaching and culture.



Maung Myo
Myintmohmaymay Literature

ကလေးတို့ရေ တို့များရဲ့မြတ်စွာဘုရားပွင့်တော်မူချိန် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်ကြီးမှာ သီတင်းသုံးနေတော်မူတဲ့ မြတ်စွာဘုရားရဲ့ထံပါးကို နတ်သားတစ်ပါးဟာ ရောက်ရှိလာပြီး တောင်းပန်လျှောက်ထားတယ်ကွယ် ...

Children. When our Buddha attained Buddhahood he was living in Zaytawon monestry in Tharwathti country and a deva arrived and addressed formally to Buddha.

ဘုန်းတော်ကြီးတော်မူလှသော မြတ်စွာဘုရား ကြီးပွားချမ်းသာခြင်း၏ အကြောင်းဖြစ်သော မင်္ဂလာတရားတော်ကို ဟောကြားတော်မူပါ ဘုရား ...

Oh Mighty Lord Buddha. Please preach the auspicious teaching of the cause of wealth.

ဒီတင် မြတ်စွာဘုရားရှင်ဟာ
မြင့်မြတ်လှတဲ့ မင်္ဂလာတရား
(၃၈) ပါးကို ဟောကြားတော်
မူခဲ့တယ်ကွယ့် ...

Then Buddha preached 38 noble auspicious teaching.

အို နတ်သား.. ငါ
ဟောကြားသည့် (၃၈) ပါးသော
မင်္ဂလာတရားသည်သာလျှင် လူ နတ်တို့
အတွက်မြတ်သော မင်္ဂလာဖြစ်ကြောင်း
မှတ်သားလေလော့

Oh, deva. Note down events that only 38 auspicious teaching I preach is noble auspicious for human and nat.

ဘုရားရှင် အဲဒီလို ဟောကြားခဲ့တဲ့
(၃၈) ဖြာမင်္ဂလာကို ကလေးတို့ရဲ့ နှလုံး
သားထဲမှာ သိမှတ်လွယ်အောင် ပုံပြင်
လေးတွေနဲ့ ပြောပြမယ်နော်..

I will tell you 38 auspicious teaching of Buddha with stories to know easily.

# လူမိုက်ကို မပေါင်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

**It is auspicious to avoid making friend with a stupid person.**

တစ်ခါတုန်းက ရွာတစ်ရွာမှာ မိဘရဲ့အလိုလိုက်တာကိုခံထားရတဲ့ လယ်ပိုင်ရှင်ရဲ့သား တစ်ယောက်ရှိလေရဲ့ ...

There was a favourite son of farm owner once in a village.

သားလေး
ဘာစားချင်သလဲ
ဘာလိုချင်သလဲ ပြော..

Son. What do you want to have? What do you want? Tell.

အဲဒီလယ်ပိုင်ရှင်ရဲ့သား ဖိုးတုတ်ဟာ ငယ်စဉ်ကတည်းက မိဘအလိုလိုက်ထားတော့ ကျောင်းလည်းမနေ စာလည်းမသင်ဘဲ ရွာရိုးကိုးပေါက်လျှောက်ဆော့နေသတဲ့ ...

Since young that farm owner's son PhoToke was favoured by his parents he didn't attend and learn and was playing everywhere.

စာတတ်ဖို့မလိုဘူး ...
ငါ့မိဘက ချမ်းသာပြီးသား ...

I am no need to learn at school. My parents are wealthy.

အရွယ်လည်းရောက်စပြုရော ထန်းရည်မူး ကြက်တိုက် ဖဲရိုက်နဲ့ မိဘရဲ့ပိုက်ဆံကို သုံးဖြုန်းပြီး ထင်တိုင်းကြဲနေတာပေါ့ ...

When he become of age he was always dizzy toddy palm sap, gambling fowl and playing cards and he spent his parents money and did as he please.





သူက သုံးနိုင်ဖြုန်းနိုင် ကျွေးနိုင်မွေးနိုင်တော့ သူနဲ့စရိုက်တူတဲ့ကောင်လေးတွေက သူနဲ့လာ ပေါင်းကြရာက အုပ်စုဖြစ်လာတော့တယ် ...

Since he could spend and feed boys of the same characters cooperated him and they became group.








ဖိုးတုတ်တို့ဟာ အုပ်စုဖွဲ့ပြီး တခြားလူငယ်တွေကို ရန်စ ...

Phoe Toke and group tried to pick a fight other young man.

ဟေ့ကောင် ဘာကြည့်တာလဲ.. မိုက်လို့ကြည့်တာလား..

Hey. Fellow. Why do you see? Are you stupid and see?

ပြီးရင် သူတို့က အုပ်စုအားကိုးနဲ့ ဝိုင်းပြီး ထိုးကြကြိတ်ကြတော့တယ် ...

Then they striked with the group background.

ခွပ် ..

Khwet!

ကဲကွာ ညောင်ကန်သာက ဖိုးတုတ်တဲ့ကွ.. မှတ်ထား

I am Pho Toke from Nyaun Kan Thar. Think.

အ..

Err!

ဒီလိုနဲ့ဖိုးတုတ်ဟာ ရွာရဲ့လူမိုက်တစ်ယောက် လူစွာတစ်ယောက် ဖြစ်လာတော့တယ် ...

In this way Pho Toke became a stupid, aggressive young man in the village.

ငါ့ထက် မိုက်တဲ့ကောင် လစ်မှ..

Oh! He is more stupid than me. I'll ran away.

တခြားရွာကနေ ညောင်ကန်သာရွာကို ပြောင်းလာတဲ့ လူငယ်လေး မောင်နီဟာ ဖိုးတုတ်ရဲ့မိုက်ဂုဏ်ကို အားကျအထင်ကြီးပြီး ဖိုးတုတ်တို့အုပ်စုနဲ့ ရောနှောပေါင်းသင်းသတဲ့ ... မိဘတွေတောင် တားမရဘူးတဲ့ ...

The young man Maung Ni who moved from other village to Nyaun Kan Thar village envied and had great impression on the stupid power of Pho Toke and he mixed and associated with Pho Toke. Even his parents could not forbid.






မောင်နီလိုပဲ တခြားရွာကနေ ညောင်ကန်သာရွာကိုပြောင်းလာတဲ့ လူငယ်လေး မောင်ဖြူကတော့ ဖိုးတုတ်တို့နဲ့မရောဘဲ ခပ်ကင်းကင်းနေသတဲ့ ...

As Maung Ni, Maung Phyu who moved from other village to Nyawn Kan Tha village did not associate with Pho Toke and he was stay away from them.






တစ်နေ့တော့ တခြားရွာသားတွေနဲ့ချိန်းဆိုပြီး ကြက်တိုက်ရာက ကြက်ပွဲမှာ စကားများရန်ဖြစ်လေတော့ ...

One day they appointed other villagers and they gambled cock fighting and they quarreled at that fowl show.



ရွာခံ ဖိုးတုတ်နဲ့အုပ်စုက တုတ်နဲ့ရိုက်.. Local villager Pho Toke and group beat with stick.

ဂဲကွာ..
Ke Kwa!

ခွပ်
Khwat!

အု..
Ou!

ဓားနဲ့ထိုးကြလေတော့
Stab with knife.

သေစမ်း..
Die.

စွပ်...
Swut!

ဧည့်ရွာသားနှစ်ယောက် ပွဲချင်းပြီး သေသွားသတဲ့ ...
The two visiters from other village died on the spot.






နောက်ဆုံးမှာတော့ လူမိုက်နဲ့ပေါင်းသင်းမိတဲ့ မောင်နီဟာ လူသတ်တဲ့အဖွဲ့ထဲပါနေလို့ လူသတ်မှုနဲ့ ထောင်နန်းစံသွားရသတဲ့ ...

Eventually Maung Ni who associated the ignorant was included in murder case and was punished in prinson.



လူမိုက်ကို ရှောင်ခဲ့တဲ့ မပေါင်းဖော်ခဲ့တဲ့ မောင်ဖြူကတော့ ဘေးရန်ကင်းရှင်း ချမ်းသာခြင်းနဲ့ ပြည့်စုံလေသတဲ့ကွယ် ...

Maung Phyu who avoided the ignorant and did not associate and was fulfilling without danger.



# ပညာရှိသူတို့ကို ဆည်းကပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## It is auspicious taking refuge to wise man

တစ်ခါတုန်းက ညောင်ကန်သာဆိုတဲ့ ရွာလေးရဲ့ အနီးက ဝါးဖြူတောင်ပေါ်မှာ ဖိုးသူတော်ကြီး တစ်ဦး နေထိုင်တယ်တဲ့ ...

There was a whiterobed deacon once on the white bamboo hill near Nyaun Kan Thar village.





အဲဒီ ဖိုးသူတော်ကြီး ဟာ တွေ့သမျှကျောက် စာ . ပေ ပေရပိုက်တို့ ကို အမြဲလိုလို ဖတ်ရှု လေ့လာဆည်းပူးနေလို့ ပညာဗဟုသုတ ပြည့်စုံ ကြွယ်ဝသူဖြစ်သတဲ့ ..

That whiterobed deacon learnt all scrciptures and versions found in palm leaves so he was a learned person.

ညောင်ကန်သာရွာသားလေး မောင်ဖြူဟာ ပညာလိုလားသူ ဖြစ်လို့ ဖိုးသူတော်ကြီးဆီ မကြာခဏသွားပြီး မသိတာရှိ ရင် မေးမြန်းလေ့ရှိတယ် ...

The Nyaun Kan Thar villager Maung Phyu was willing to learn and so he often went to whiterobed beacon and asked him what he didn't know.




တစ်နေ့မှာတော့ ဘုရင်ကြီးဟာ တိုင်းခန်းလှည့်လည်ရင်း ညောင်ကန်သာရွာလေးဆီ ရောက်လာခဲ့တယ်..
One day the king went round division and arrived to Nyaun Kan Thar village.


ရွာထိပ်ကကန် ကောနေတာကိုတွေ့ရတော့ ဘုရင်ကြီးက မင်းချင်းတွေနဲ့ ရွာသူရွာသားတွေကို ကန်ပြန်တူးဆယ်ခိုင်းတယ် ...
The king found the lake in front of the village silt up and he ordered the attendents and villagers to salvage and dig the lake.


ကန်ကိုတူးပြီး ဆယ်တဲ့အခါ မြေကြီးထဲကနေ နတ်သမီးရုပ်တုတစ်ခု ထွက်လာတော့ ...
When the lake was dug and salvaged a statue of angel was appeared.


အဲဒီနတ်ရုပ်ဟာ ဘာနတ်ရုပ်လဲ.. သိတဲ့လူရှိရင် လျှောက်တင်စမ်း..
What is the kind of that angel statue is? Address me the person who knows.
ကောင်းစွာ သိသူကို အသပြာ ထောင်ထုပ်ချီးမြှင့်မယ်...
I will award whom knows well one thousand money.


အဲဒီနတ်ရုပ်ဟာ ဘယ်လိုနတ်ရုပ်လဲ ဆိုတာကို ဘုရင်ကြီးနဲ့အတူပါလာတဲ့ ပညာရှိမှူးမတ်တွေရော ညောင်ကန် သာရွာသူရွာသားတွေပါ ဘယ်သူမှ မပြောနိုင်ကြဘူး ...
No attendant along with the king and Nyaun Kar Thar villager couldn't tell about what kind of angel statue.


ငါ့အဘိုးရဲ့ အဘိုးတော့ သိမယ်ကွ
My grandpa's grandfather would know.
မင်းအဘိုးရဲ့ အဘိုးက မင်းအဘိုးမမွေးခင် ကတည်းက သေခဲ့တာမဟုတ်လားကွ
Your grandpa's grandfather died before your grandpa died. Didn't he?



အဲဒီအချိန်မှာ မောင်ဖြူဟာ ဝါးဖြူတောင်ဆီ
သွားပြီး ဖိုးသူတော်ကြီးဆီ ချဉ်းကပ်ကာ
မေးသတဲ့ ...
At that time Maung Phyu went to white-robed beacon and approached and asked.






အသိပညာ ဗဟုသုတကြွယ်ဝလှတဲ့ ဖိုးသူတော်ကြီးက
သေချာပြောပြလိုက်တယ် ... The learned whiterobed beacon told about it certainly.






ပြီးတော့ သူ့အိမ်နားက ကန်
ပေါင်ပေါ်မှာ နတ်ကွန်းလိုအဆောင်လေး
ဆောက်ပေးထားတယ် .. သူကြီးကတော်ရဲ့အမည်
က မာလာ တဲ့.. အဲဒီအဖြစ်အပျက်ကို ကဗ္ဗည်းကျောက်
စာရေးထိုးထားသလို ပေထက်အက္ခရာလည်း တင်ထား
တယ်ကွယ့်...

And then he built a small house as celestial abode on the lake border near his house. The head man's wife's name is Mar Lar. This event was written in the record as well as found in palm leaves.

ကျုပ်က အဲဒီ
ပေရွက်ကို ဖတ်ထားဖူးတယ်

I have read about this story version found in palm leave.

နောက် မိုးများတဲ့နှစ်မှာ
ကန်ပေါင်ပြိုရာက နတ်ကွန်းဟာ
မြေကြီးထဲမြုပ်ပြီး ပျောက်ကွယ်နေခဲ့
တာကွယ့် ...

After that when it was much rainy year the celestial abode was sunk to the earth because the lake border toppled down.

(၀)



အဲဒီနောက် မောင်ဖြူ
ဟာ ရွာဆီပြန်ပြေးပြီး

After that Maung Phyu returned and ran to the village.



ဘုရင်ကြီးရဲ့ရှေ့တော်မှောက်အရောက်မှာ နတ်ရုပ်တုရဲ့အကြောင်းကို
တင်ပြလိုက်တယ်တဲ့ ... When he arrived before the king he submitted the story of angel statue.




အဲဒီအချိန်မှာပဲ ကန်ကိုဆယ်
နေတဲ့မင်းချင်းနဲ့အလုပ်သမား
တွေဟာ ရှေးဟောင်းကျောက်
စာတစ်ချပ်ကို တူးဖော်ရရှိခဲ့
တယ် ...

At that time salvaging attendants and workers excavated an ancient scripture.




သုံးပိုင်းပဲ့ကျိုးနေတဲ့
ကျောက်စာချပ်ပါလား
It is three parts broken
stone scripture.


ကျောက်စာချပ်တွေကို ဆက်စပ်ဖတ်ကြည့်လိုက်တော့
မောင်ဖြူ တင်လျှောက်တာ မှန်ကန်တာကို ဘုရင်ကြီး
သိသွားတော့တယ် ...
They joined the parts of scripture and read. The
king knew the truth of Maung Phyu's report.


ဒါကြောင့် ဘုရင်ကြီးဟာ သူ့ကတိ
အတိုင်း မောင်ဖြူကို အသပြာ
ထောင်ထုပ်ချီးမြှင့်လိုက်သတဲ့ကွယ်..
So the king awarded Maung
Phyu one thousand money as
he promised.
ဒါဟာ ပညာရှိသူကို
ဆည်းကပ်လို့ မောင်ဖြူ
လေးအတွက် မင်္ဂလာရှိ
သွားတာပဲမဟုတ်လား
ကလေးတို့ရေ ...
Children. This is
auspicious for Maung
Phyu took refuge
from the learned
person.

# ပူဇော်ထိုက်သူကို ပူဇော်ရခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## It is auspicious to worship to those who is deserved to be worshipped.

တစ်ခါက လွန်စွာသီလစင်ကြယ်တဲ့ သူတော်စင်အဖြစ် ဂုဏ်သတင်းကျော်စောတဲ့ရသေ့ကြီးတစ်ပါးရယ် ယစ်ထုပ်ကြီးတစ်ဦးရယ်.. နာမည်ကျော်မုဆိုးကြီးတစ်ယောက်ရယ်ဟာ မြစ်ဆိပ်တစ်ခုဆီ ရောက်လာကြတယ်ကွယ့် ...

At one time there were hermit who was famous for saint, a drunkard and famous hunter and they arrived to jetty.

မြစ်ဆိပ်မှာလည်း ကူးတို့လှေသုံးစင်းပဲရှိလေတော့ ရသေ့ကြီးက ကူးတို့သမားသုံးဦးကို ပြောတယ် ...

There were also three boats in jetty and the hermit to the three ferry men.

ဒီမြစ်ရဲ့တစ်ဖက်ကမ်းဆီ ကျူပ်သွားလိုတယ်.. ဘယ်သူလိုက်ပို့ပေးမလဲ..

I want to go other side of this river and who will carry me.

ကျူပ်ဆီမှာ ကူးတို့ခပေးဖို့ ငွေအသပြာတော့မပါဘူး ဟောပြပေးနိုင်တဲ့ တရားဓမ္မပဲပါတယ်

I have no money for ferry charge but the teaching I can preach.





ဟောဒီရေတကောင်း
ထဲမှာ အရက်အပြည့်ပါတယ်..
ငွေတော့မပါဘူး.. လိုက်ပို့သူကို အရက်
အဝတိုက်မယ် ...

There is full alcohol in this water pot. I have no money and I will give the ferry man alcohol to be content.



မုဆိုးကြီးကတော့ ခါးမှာချိတ်ထားတဲ့ ဝါးပလိုင်းကြီးထဲက
ယုန်အသေကောင်ကို ထုတ်ပြပြီး ...

The hunter put out the dead rabbit from the bamboo basket of his waist and showed.

ကျုပ်မှာလည်း
ငွေမပါဘူး.. ဟောဒီယုန်ပဲပါ
တယ်.. ကူးတို့ခအဖြစ် ဒီယုန်ကို
ပေးမယ်.. ဘယ်သူလိုက်ပို့မလဲ..

I also have no money. I have only this rabbit. I will give this rabbit as ferry charge. Who will carry me?






အဲဒီမှာ အရက်ကြိုက်တဲ့လှေသမားဟာ ယစ်ထုပ်ကြီးကို လိုက်ပို့တယ် ...
There, the boat man who like alcohol very much carried the boat man.
ဒီနေ့တော့ အဝသောက်ရပြီ အဟိ..
Today I drink to be content. Hi! Hi!


မယားနှစ်ယောက်ယူထားတဲ့ ကူးတို့သမားကတော့ ဟင်းစားအတွက် မုဆိုးကြီးကို လိုက်ပို့တာပေါ့ ...
The boat man with two wives carried the hunter for food.


ရိုးသားအေးချမ်းပြီး မိခင်အိုကြီးကို ရှာဖွေကျွေးမွေးနေတဲ့ မောင်လူအေးဆိုတဲ့ကူးတို့သမားကတော့ ရသေ့ကြီးကို ကြည်ညိုလေးစားတဲ့အတွက် ပူဇော်ကန်တော့တဲ့အနေနဲ့ အခမဲ့လိုက်ပို့ဖို့ သဘောတူလိုက်သတဲ့ ...
Maung Lu Aye who was simple and looked after old mother admired the hermit and agree to carry with free charge as he worshipped.

ဒီလိုနဲ့ လှေသုံးစင်းဟာ မြစ်ပြင်ကျယ်ကို ဖြတ်သန်းလာစဉ်မှာပဲ မြစ်လယ်ရောက်တော့ မိုးလေထန်လာပြီး လှိုင်းလုံးကြီးတွေ ကြီးသထက်ကြီးလာတော့တယ်.. အဲဒီအခါ လှေလှော်ရင်း အရက်မှော့လာတဲ့ ကူးတို့သမားက အရက်တကောင်းကို မြှောက်ကိုင်ရင်း မူးမူးနဲ့ အော်ဟစ်ဆုတောင်းတယ်..

In this way while the three boats were passing the wide river they arrived in the middle of the river there was a storm and the waves were bigger. At that time the boat man drank rowing boat shouted and prayed holding up the alcohol goglet dizzily.




အဲဒီအချိန်မှာပဲ ရေမလှိုင်းလုံးကြီးက အဲဒီလှေကို ဖုံးလွှမ်းနှစ်မြုပ်လိုက်တော့တယ်...

At that time the boat was sunk by the big wave.



နောက်လှေသမားကတော့ ယုန်သေကို ကိုင်မြှောက်ရင်း အော်ဟစ်ဆုတောင်းတယ် ...

Another boat man shouted and prayed holding up the dead rabbit.



အဲဒီအချိန်မှာပဲ နောက်ထပ်
လှိုင်းလုံးကြီးက အဲဒီလှေ
ကို ဖုံးလွှမ်းနှစ်မြှုပ်လိုက်
တော့တယ် ...

At that time another big
wave sunk the boat.

ရသေ့ကြီးဟောကြားတဲ့ တရားကိုနာလာသူ မောင်လူအေးကတော့ သုံးဆယ့်ရှစ်ဖြာမင်္ဂလာတရားတော်ကို
နာလာရင်း လှေကို မှန်မှန်လှော်ခတ်လာတယ် ...
Maung Lu Aye who was listening 38 auspicious teaching of the hermit was rowing the boat
steadily.



နတ်ကောင်းနတ်မြတ်တွေ
က မောင်လူအေးအတွက်
လှိုင်းလေငြိမ်ပေးလိုက်လို့
တစ်ဖက်ကမ်းကို ချောချော
မောမော ရောက်ရှိသွား
တော့သတဲ့ကွယ် ...

The deities made the
wave quiet and they
arrived to the another
river side smoothly.






# သင့်တင့်လျောက်ပတ်သည့်အရပ်၌ နေခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## It is auspicious to live in suitable place

တစ်ခါတုန်းက မင်းနေပြည်တော်မှာ ကျင်းပမယ့် ကဗျာလင်္ကာအရေးပြိုင်ပွဲ ဝင်ရောက်ယှဉ်ပြိုင်ဖို့ ကဗျာဆရာလေး တစ်ဦးဟာ ကျေးလက်တောရွာကနေ ရောက်ရှိလာတော့တယ် ...

At one time a young poet arrived from the village to the city of king to contest writing poem held in there.



ရှေးဦးစွာ ကဗျာဆရာလေး မောင်ပန်းအေးဟာ ပြိုင်ပွဲကြီးကြပ်တဲ့အမတ်ကြီးဆီမှာ အမည်စာရင်း သွားပေးတယ် ...

Firstly the poet Maung Pan Aye enrolled to the competition supervisor head.




အေး ရော့
မင်းရေးဖွဲ့ရမယ့်ကဗျာရှည် ခေါင်းစဉ်
ခုနစ်ရက်အတွင်း အပြီးရေးပြီးယူခဲ့..
Yes. Here Write the title of long poem. You will compose within seven days and bring.





ပိုက်ဆံသိပ်မတတ်နိုင်တဲ့ မောင်ပန်းအေးဟာ မြို့စွန်ကရပ်ကွက်လေးမှာ အိမ်ခန်းငှားရမ်းနေထိုင်ပြီး ကဗျာရေးဖွဲ့ဖို့ ကြိုးစားသတဲ့...

Maung Pan Aye who could not offered much hired a small apartment in the quarter of suburb and lived and tried to compose the poems.

ဒါပေမဲ့ သူနေတဲ့ရပ်ကွက်ဟာ အရက်သမား ဖဲသမားလူပေါက်သောက်တွေနေတဲ့ ရပ်ကွက်ဖြစ်နေတယ်..တစ်နေကုန် ကလေးတွေကဆူ...

But the people of the quarter he lived were drinkers, gamblers playing cards and trash. The children were noisy the whole day.




မိန်းမတွေက အော်ဟစ်ဆဲဆို ရန်ဖြစ်ကြ...

The women were shouting, scolding and quarrelling.






ညဘက်ရောက်ရင် ယောကျ်ားတွေက သေရည်သေရက်သောက်ပြီး မူးယစ်ရမ်းကားကြ ...
At night man drunk alcohol and were dizzy and rough.














အဲဒီလို နေ့တိုင်းပွက်လောရိုက်နေတဲ့ရပ်ကွက်လေးထဲမှာ မောင်ပန်းအေးဟာဘယ်လိုမှ ကဗျာရှည်ကြီးကို ရေးလို့မရဖြစ်နေတယ်...

In such daily noisy quarter Maung Pan Aye could compose long poem.

ခက်ပါလား..
ဘာမှကိုတွေးလို့မရဘူး..
It is difficult. I can think nothing.

သုံးရက်လောက်အထိ ကဗျာတစ်ပိုဒ်မှ ရေးထိုးမရတာနဲ့ မောင်ပန်းအေးဟာ အရက်သမား လောင်းကစားသမား လူရမ်းကားတို့နဲ့ဝေးရာ အေးချမ်းတဲ့ရပ်ကွက်လေးဆီ ပြောင်းပြီးနေရသတဲ့ ...

Maung Pan Aye could not write only one paragraph for poem till three days moved to peaceful quarter far away from drinkers, gamblers and rough men.





အေးချမ်းတဲ့ရပ်ကွက်လေးကိုရောက်မှ နားအေးပါးအေးနဲ့ ကဗျာရှည်
ကြီးကို နှစ်ရက်အတွင်း ပြီးအောင်ရေးနိုင်တော့သတဲ့ ...

When he arrived quiet quarter he could write the long poem in peace and quiet within two days.







# ရှေးကပြုဖူးသော ကောင်းမှုသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Having meritorious deed of past life is auspicious

တစ်ခါတုန်းက မောင်ယဉ်မောင်ဆိုတဲ့ လူငယ်လေးဟာ မြို့တော်ကြီးမှာ ပညာသွားရောက်သင်ရာက ပညာစုံလေတော့ သူ့မိဘများရှိရာ ညောင်ကန်သာရွာဆီ ခြေလျင်ပြန်လာခဲ့သတဲ့ ....

At one time a young man Maung Yin Maung went to the city and learned. When he was educated he went back to Nyaun Kan Thar village where his parents lived on foot.



သူ့ရဲ့ရွာလေးဟာ ရွှေမြို့တော်ကြီးကနေ တစ်နေ့ကုန်ခြေလျင်ခရီးနှင်ရတဲ့ရွာလေးဖြစ်ပြီး လမ်းခရီးမှာ ...

He had to go on foot the whole day to arrive from his village to golden city. On this way...

တောင်ကျချောင်း သုံးချောင်းကို ဖြတ်ရသတဲ့ ကွယ်.. တံတားမရှိတဲ့ အဲဒီချောင်းတွေကို မိုးတွင်းဘက်ဆို ဖြတ်ကူးဖို့ မလွယ်ဘူးတဲ့...

He had to pass three streams. There was no bridge so it is not easy to pass these streams in the rainy season.



အဆောက်အဦ ဆောက်လုပ်တဲ့အတတ်ပညာ
သင်လာတဲ့ မောင်ယဉ်မောင်ဟာ အဲဒီချောင်းတွေ
မှာ တံတားဆောက်ပေးဖို့ စိတ်ကူးရသွားတယ်။..

Maung Yin Maung who learnt architecture thought to build bridge on the streams.




သူဟာ တောထဲက သစ်တွေခုတ်ပြီး တံတားတစ်
စင်းပြီးတစ်စင်း ဆောက်လုပ်တော့တယ်တဲ့ ...

He cut the wood from the forest and built one bridge after another.



ညောင်ကန်သာရွာက လူငယ်လူရွယ်တွေ
ဟာ မောင်ယဉ်မောင် တံတားဆောက်နေ
တဲ့သတင်းကိုကြားတော့ လူစုလူဝေးနဲ့
လာရောက်ကြပြီး ဝိုင်းဝန်းကူညီဆောက်
လုပ်ကြတယ်တဲ့ ...

The young men from Nyaun Kan Thar heard about building bridge of Maung Yin Maung and they came by group and helped him.





ငါတို့
တည်ဆောက်တဲ့ တံတား
တွေဟာ..ရာသီမရွေးသွား
လို့လာလို့ရတဲ့ တံတားတွေပဲကွ..
The bridges we built can be passed in all seasons.

ဟုတ်ပါ့...
လှည်းတောင်သွားလို့
ရပြီ ...
Yes. Even cart can cross.

ဒီလိုနဲ့ မိုးတွင်းရောက်လာပြီး ချောင်းတွေရေလျှံ
တဲ့အချိန်မှာပဲ မောင်ယဉ်မောင်ဟာ မြွေဟောက်
တစ်ကောင်ရဲ့ကိုက်ခဲခြင်း ခံရတော့တယ် ...
In this way the raining season fell and when there overflowed of the streams, Maung Yin Maung was bitten by a cobra.

ဟာ ပိုးထိသွားပြီဟေ့
မြို့ကသမားတော်ကြီးဆီ အချိန်
မီ..အရောက်ပို့မှဖြစ်မယ်..
Har! He was bitten by poisonous snake. We must take him to the specialist from town in time.

ဖောက်
Phaut!

အား
Arr!

ရွာသားလူငယ်လူရွယ်တို့ဟာ မောင်ယဉ်မောင်ကို နွား
လှည်းနဲ့မြို့ဆီ မောင်းပို့ကြတော့တယ် ...
The young villagers took Maung Yin Maung to town by cart.








ဟုတ်တယ်ကွ.. အခုတော့ အမြန်ဆုံးဖြတ်နိုင်ကြပြီ...
Yes. Now we can pass speedily

မြို့ပြဆီအချိန်မီရောက်သွားတဲ့ အတွက် သမားတော်ကြီးဆီမှာ ဆေးဝါးကုသမှု ခံယူနိုင်ပြီး မောင်ယဉ်မောင်ဟာ အသက် ဘေးက သီသီလေး လွတ်ခဲ့ရတော့တယ်တဲ့ ...

They arrived to the city in time and Maung Yin Maung was cured by the physician and he was just free from life danger.



# ကိုယ်နှင့်စိတ်ကို တည်ဆောက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏ ။

## Building good behaviour of mind and body is auspicious

တစ်ခါက နံနက်ခင်းတစ်ခုမှာ သမ္ဗန်သမား ငှက်ခတ်သမားလေး မောင်ကောက်ရဟာ အိမ်ကနေ လှေဆိပ်ဆီ စိတ်လေးပင်စွာနဲ့ ထွက်လာတယ်တဲ့ ကွယ်. . .

At one time a young boat man Maung Kauk Ya came to jetty from house with perturbation in one morning.

အင်း အမေ့ရဲ့ နာတာရှည်ရောဂါအတွက် ဆေးကုသစရိတ် အများကြီးလိုတယ်. . ပြီးတော့ ညီလေးကိုလည်း ရှင်ပြုပေးရဦးမယ်

Inn. It needs much medical charges for mother's long suffering disease. And then I must give my brother novitiate.

ညီလေးက မကြာခင် တစ်နှစ်နှစ်နှစ်ဆိုရင် လူပျိုကြီးဖားဖား ဖြစ်တော့မှာ. . အမေက ညီလေး လူပျိုမဖြစ်ခင် သင်္ကန်းစည်းပေးချင်တာတဲ့ . . .

My brother will be comfirmed bachelor during coming one or two years. Mother wants to give him novitiate before becoming bachelor.


လိုအပ်နေတဲ့ငွေတွေကိုဘယ်လိုရှာဖွေရမှန်း မသိဘဲ စိတ်ညစ်နေတဲ့မောင်ကောက်ရဟာ..
Maung Kauk Ya was depressed because he didn't know how to earn money needed.


လှေဆိပ်ကိုရောက်ပြီး အတော်ကြာတော့ ခရီးသည် သုံးဦးကို မြစ်ရဲ့တစ်ဖက်ကမ်းဆီ သမ္ဗန်ခတ်ပြီးလိုက်ပို့ပေးရတယ် ...
After arriving jetty in quite long time he carried three travellers rowing to the other side of river.


မြစ်တစ်ဖက်ကမ်းဆီရောက်ပြီး ညောင်ကန်သာရွာဘက် သမ္ဗန်ကိုပြန်ထွက်မလို့ ဟန်ပြင်နေတုံး ...
After he arrived on the other side of river when he was preparing to go back the boat to Nyaung Kan Thar.


ခရီးသည်ယောကျ်ားတစ်ယောက်ဟာ ကမ်းစပ်ပေါ်ကနေ အူလျားဖားလျားဆင်းလာတယ်..
A traveller man send down from the bank in a hurry.
သမ္ဗန်ဆရာလေး
သမ္ဗန်ဆရာလေး
ကျုပ် ဟိုဘက်ကမ်းလိုက်ပါရစေ
Young boat man.
Young boat man.
Let me along with you to that side.

ဒီလိုနဲ့ အဲဒီခရီးသည်ကိုတင်ဆောင်ပြီး ညောင်ကန်သာဘက်လှော်ခတ်လာတော့တယ် သူဟာ စိတ်ညစ်နေလို့ ဘာစကားမှမပြောဘဲ သမ္ဗန်ကိုသာ ပုံမှန်ခတ်လာခဲ့တယ် ...

In this way he carried the passenger and rowed to Nyaun Kan Thar. He was unhappy and talked no word and was rowing the boat steadily.



ညောင်ကန်သာ လှေဆိပ်ကိုရောက်တော့ ခရီးသည်ကြီးဟာ သမ္ဗန်ခပေးပြီး လွယ်အိတ်ကိုလွယ်လို့ ခပ်သုတ်သုတ် ဆင်းသွားလေရဲ့ ...

When they arrived to Nyaun Kan Thar jetty the passenger gave him charge for boat and sent down in a hurry carrying a bag.






ခရီးသည်ကိုလှမ်းကြည့်တော့ မရှိတော့ဘူး ...

When he found the passenger he was not.




ဒါနဲ့ မောင်ကောက်ရဟာ အထုပ်ကိုဖြည်ကြည့်လိုက်တယ် ...
So Maung Kauk Ya opened the pack.


ဘာအထုပ်ပါလိမ့် ဟာ ငွေ ငွေဒင်္ဂါးတွေပါလား..
What pack is this? Har! There are money coins.


အမေ အမေ့ကိုဆေးကုဖို့ ငွေတွေအများကြီးလိုနေတယ်..ပြီးတော့ ညီလေးကိုလည်း ရှင်ပြုပေးရမယ်..အဲဒီလိုနေတဲ့ ငွေတွေကို သမာဒေဝ နတ်ကောင်းနတ်မြတ်တွေကက လူယောင်ဖန်ဆင်းပြီး လာပေးတာများလား...
I need much money to cure my mother. And I must give my brother nevitiate. Is the needed money given by deities creating as human.


အို ဘာပဲဖြစ်ဖြစ် ငါနဲ့ထိုက်လို့ငါရတာ ဒီငွေတွေ ငါယူလိုက်မယ်..
Oh! Whatever may be. I get because I suit. I will take this money.




ဒီလိုနဲ့ မောင်ကောက်ရဟာ ငွေထုပ်ကိုဆွဲကိုင်လျက် ဆိပ်ကမ်းပေါ် တက်ခဲ့ပြီး ရွာထဲဝင်လာခဲ့တယ် ...

In this way Maung Kauk Ya got up harbour carrying money pack and came into village.



စောစောက ခရီးသည်ကြီးကို ဟိုကြည့်ဒီကြည့်နဲ့ ရှာဖွေရာက သူတို့ရဲ့ခြံဝိုင်းရှေ့လည်းရောက်လာရော အိမ်ရှေ့ကပြင်မှာ ဝိုင်းထိုင်နေကြတဲ့ သူ့အမေရယ် သူ့ညီရယ်။ ခရီးသည်ကြီးရယ်ကို မမျှော်လင့်ဘဲ တွေ့ရတော့တယ်

He found the previous passenger looking here and there and he arrived to his compound. He saw his mother, his brother and the passenger sitting altogether on the open deck before house unexpectedly.





ရော် ကျုပ်ဖြင့် ခုလေးတင်ပဲ ငွေထုပ်ပါမလာလို့ ပြန်ရှာမလို့ ပြင်နေတာ.. တော်သေးတာပေါ့..
Yaw, I am preparing to find the pack is not with me just now. It is just about right.




အဲဒီမှာတင် မောင်ကောက်ရရဲ့အမေက မထင်မှတ်တဲ့စကားကို ဝင်ပြောတော့တယ် ... At this time Maung Kauk Ya's mother interrupted and told unexpected words.
သားရေ ဒါအမေ့ရဲ့မောင်ကွယ့် မြို့က အမေတို့ရဲ့အမွေဆိုင် အိမ်ကြီးရောင်းရလို့ အမေ့အတွက် အမွေဝေစုကို လာပေးရှာတာကွယ့်
My son. He is my brother. He sold our inherited house from town and he comes to give my inheritance share.




အင်း ငါဟာ ငါ့ရဲ့ကိုယ်နဲ့စိတ်ကို ကောင်းစွာတည်ခဲ့မိတဲ့ အကျိုးကိုအပြစ်ကင်းစွာ ခံစားရတာပါလား..
Inn! I had to enjoy the result that I built my body and mind well without sin.

# အကြားအမြင်များသူဖြစ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Having general knowledge is auspicious

တစ်ခါက ညောင်ကန်သာရွာနားက သပြုအိုင်ရွာမှာ ဘုရားထီးတင်ပွဲ ရှိလေတော့ ရွာနီးချုပ်စပ်က ရွာသူရွာသားတွေဟာ နွားလှည်းတွေနဲ့ ထီးတင်ပွဲအမီ အုပ်စုလိုက် အုပ်စုလိုက် တပျော်တပါးကြီး သွားကြတယ်တဲ့ကွယ် ...

At one time there was a ceremony of hoisting the umbrella atop a stupa in Tha Byu Ain village near Nyaun Kan Thar village. So villagers from neighbouring villages went to raising the final atop a stupa ceremony in time carts, group by group happily.



ညောင်ကန်သာရွာက လှည်းငါးစီးကို ဦးဆောင်လာသူကတော့ စာပေပညာကို အင်မတန်လိုက်စားတဲ့ အကြားအမြင် ဗဟုသုတကြွယ်ဝသူ ဘိုးလေးထွန်းပဲဖြစ်တယ်ကွယ့် ...

The leader of five carts was Phoe Lay Tun who pursued literature and was a learned man from Nyaung Kan Thar village.



အဲဒီလို လှည်းတန်းနဲ့လာကြရင်း သဲချောင်းတစ်ချောင်းရဲ့အစပ်ဆီ ရောက်ရှိလာတော့တယ် ...

In this way while coming by carts they arrived the side of a sand stream.



ရာသီဥတုက ကောင်းကင်တစ်ပြင်လုံး တိမ်ညိုတွေကင်းစင်ပြီး သာယာနေတယ်.. ဒါပေမဲ့ ဘိုးလေးထွန်းက ချောင်းဖျားဘက်ကို မျှော်ကြည့်လိုက်တယ် ...

It was pleasant weather with no clouds in the sky. But Boe Lay Tun looked to the tip of the stream.












ညောင်ကန်သာရွာသူရွာသားတွေဟာ ပွစိပွစိ ဖြစ်ကုန်ကြတယ် ...
Nyaun Kan Thar villagers complained.




ဒါပေမဲ့ ဘိုးလေးထွန်းပြောတဲ့အတိုင်းပါပဲ ။ တောင်တန်းတွေဘက်မှာ ချက်ချင်းပဲ မိုးရိပ်တွေ ပိုမိုညို့တက်လာပြီး ...
But as Boe Lay Tun said there became sign of rain on the mountain immediately.






မျက်စိတစ်မှိတ် လျှပ်တစ်ပြက် အတွင်းမှာပဲ အလုံးအရင်းလိုက် အဟုန်ပြင်းစွာ လိမ့်ဆင်းလာတဲ့ တောင်ကျရေတွေဟာ ချောင်း အလယ်ကိုရောက်နေပြီဖြစ်တဲ့ တခြားရွာကလှည်းတွေကို တိုက် ချသွားတော့တယ် ...

Water from the mountain flowed strongly and speedily in a flash and in the middle of the stream. So the waves striked the carts from other village.







အဲဒီတော့မှ ညောင်ကန်ရွာ သူရွာသားတွေဟာ မျက်လုံး တွေပြူးပြီး ရင်ဘတ်ဖိကုန် ကြတော့တယ် ...

In this time Nyaun Kan Thar villager's eyes became wide and pressed their breasts.




အကြားအမြင် ဗဟုသုတများတဲ့ ဘိုးလေး ထွန်းကြောင့် ညောင်ကန်သာရွာသူရွာသား တွေဟာ အသက်ချမ်းသာရာ ရခဲ့ကြတယ် ကွယ်.. ဒါကြောင့် အကြားအမြင်များခြင်း ဟာ မင်္ဂလာတစ်ပါးလို့ပြောတာပေါ့ ကလေးတို့ရယ် ...

Because of learned Boe Lay Tun Nyaun Kan Thar villagers were spared from life danger. So much general knowledge is auspicious Children



# အပြစ်ကင်းစွာ တတ်မြောက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Earning without fault is auspicious

တစ်ခါက တက္ကသိုလ်ပြည်ကြီးမှာ ဆေးဝါးပညာကို သုံးနှစ်သုံးမိုး သွားရောက်ပညာသင်ယူပြီးနောက် ...

At one time a young man learnt medical science three years in institute and after learning



အရပ်တကာလှည့် ဆေးကုနေခဲ့တဲ့ ဆေးသမားတော်လေးဆရာချော ဟာ သူ့ရဲ့မွေးရပ်ချက်မြှုပ် ညောင်ကန်သာရွာလေးဆီကို ဆယ်နှစ်လောက်နေမှ ပြန်ရောက်လာခဲ့တယ်တဲ့ ...

he was giving treatment and went around in all places. He, a specialist named as Saya Chaw returned to his native village, Nyauh Kan Thar after ten years.



ဆရာချောရဲ့ဆေးကုသချက်တွေ ကောင်းလွန်းလို့ ရွာနီးချုပ်စပ်က လူနာတွေဟာ လှေတစ်တန် လှည်းတစ်တန်နဲ့ ဆရာချောဆီ ဆေးကုသခံယူဖို့ တဖွဲဖွဲ လာရောက်ကြတယ်ကွယ် ...

Since Saya Chaw's treatments were very excellent the patients from neighbourhood villages came to him for cure by cart or by boat.





အဲဒီလို လာရောက်သူတွေထဲမှာ အခြားရွာကဦးဒေါနတို့လင်မယားလည်းပါသတဲ့ ..

Among them U Daw Na and wife from other village included.

ဟင် ဒီ
ဒီလူကြီးတို့လင်မယားပါလား

Hin! These persons, wife and husband.

တကယ်တော့ အဲဒီ ဦးဒေါနဆိုတဲ့လူကြီးဟာ မောင်ကောက်ရတို့ ငယ်ငယ်တုန်းက မောင်ကောက်ရရဲ့မိဘတွေကို ငွေအားနဲ့ဖိပြီး စီးပွားပျက် အသက်သေအောင် မတရားအနိုင်ကျင့်ခဲ့သူပဲကွယ့် .. ဦးဒေါနတို့ကတော့ ဆရာချောကို မမှတ်မိကြဘူး ...

In fact when Maung Kauk Ya was young he pressed Maung Kauk Ya's parents in force with money to destroy economy and die. So he unfairly defeated. U Daw Na couldn't remember Saya Chaw.






ဆရာချောဟာ လူရဲ့အကြောတွေ အားလုံး ဆုတ်ဆိုင်းသွားပြီး နောက်ဆုံး သေရွာသွားစေမယ့် ဆေးကို သေချာစွာဖျော်ပြီး ဦးဒေါနရဲ့လက်ထဲ ဆေးခွက်ထည့်ပေးလိုက်တယ် ...
Saya Chaw made a medicine properly with which can go to death village at last after all human veins hesitated and degenerated and he gave the cup of medicine.




လူနာ ဦးဒေါနဟာ ယုံကြည်စိတ်ချစွာနဲ့ဆေးကို မော့သောက်ဖို့ ဟန်ပြင်လိုက်စဉ်မှာပဲ ဆရာချောဟာ အသိတရားရသွားခဲ့တယ် ...
The patient U Daw Na believed and prepared to hold up and drink the medicine. Then Saya Chaw got a consideration.


ငါတတ်မြောက်ထားတဲ့ ဆေးပညာဟာ အပြစ်ကင်းစွာ လူ့အသက်ကယ်ဖို့ပဲဖြစ်တယ်.. လူသတ်ဖို့ မဟုတ်ဘူး..
The medical science I learnt is to save human's life sinlessly. Not for killing human.

အချိန်မီ အသိတရားရသွားတဲ့ ဆရာချောဟာ ဦးဒေါနရဲ့လက်ထဲက ဆေးခွက်ကိုပြန်ယူလိုက်ပြီး..
Saya Chaw who perceived consideration in time took back the cup from the hand of U Daw Na.






တကယ့်ဆေးကောင်းဝါးကောင်းတွေနဲ့ တိုက်ကျွေးကုသပေးလိုက်လို့ ဦးဒေါနဟာ ဝေဒနာပျောက်ကင်းပြီး ကျန်းမာသွားတော့သတဲ့ကွယ်...
He cured with real good medicine. So U Daw Na was cured of suffering and recovered.

ဒါကြောင့် အပြစ်ကင်းစွာတတ်မြောက်ခြင်းဟာ မင်္ဂလာတစ်ပါးလို့ ပြောတာပေါ့ ကလေးတို့ရေ ...

Children! So it is said that skill without sin is auspicious.





# ကျင့်ဝတ်တို့ကောင်းစွာ လိုက်နာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## It is auspicious by abiding the moral code well

ရဟန်းမှာလည်း ရဟန်းကျင့်ဝတ် ရှိသလို လူမှာလည်း လူ့ကျင့်ဝတ် ဆိုတာရှိတယ် ကလေးတို့ရေ . . .

Children! Human beings have moral code as well as the monks have to abide moral code.

တစ်ခါက ဘုရင်ကြီးတစ်ပါးဟာ စစ်ကူတောင်းတဲ့တိုင်းပြည်ဆီ သူ့ရဲ့အင်မတန်အားကိုးရတဲ့ သူရဲကောင်းစစ်သည် ဗိုလ်နန္ဒ ဦးစီးစေလျက် ချီတက်စေခဲ့တယ်. .

At one time a king marched to the country asked for military help. He ordered to lead Bo Nanda who was brilliant and reliable soldier.

စစ်ကူရတဲ့အတွက် အဲဒီနိုင်ငံဟာ စစ်နိုင်သွားတော့ ဘုရင်ကြီးကို ကျေးဇူးတုံ့ပြန်တဲ့အနေနဲ့ ကြွေရုပ်လေးလိုလှတဲ့ သူ့ရဲ့သမီးတော်ကို ဘုရင်ကြီးထံလက်ဆောင်ပဏ္ဏာ အဖြစ်...

That country which got help won the battle. So as a reaction of gratitude for king his beautiful daughter as ceramic statue was sent as present








ဒါပေမဲ့ ဗိုလ်နန္ဒက မလုပ်တလုပ်
လုပ်နေတော့ မင်းသမီးလေးဟာ
အားမလိုအားမရဖြစ်ပြီး မင်းနေပြည်
တော်ဆီ ရောက်ခါနီး နောက်ဆုံးည
လူခြေတိတ်ချိန်မှာ ဘယ်သူမှမသိ
အောင် ဗိုလ်နန္ဒရဲ့အနီး ချဉ်းကပ်လာ
ပြီး..

But Bo Nanda was naive. So
the princess felt frustrated when
they arrived near the city it
was last night and ceasing she
approached to Bo Nanda
without knowing of anybody.

မောင်မောင်ရယ်..
ထိပ်ထားလေ ရှင့်ရဲ့ဘုရင်
သက်ကြားအိုကြီးနဲ့ လက်ဆက်ပြီး
ဘဝအဆုံးမခံပါရစေနဲ့...

Maung Maung. Please don't
let my life lose by marrying
your old king.

မောင်မောင့်အပေါ်မှာ
လည်းထိပ်ထားရဲ့စိတ်တွေ တိမ်း
ညွတ်နေပါပြီ..မောင်မောင်လည်း ထိပ်ထား
ကိုချစ်မိနေပြီဆိုတာ ထိပ်ထားသိပါတယ်

I feel attachment and I am inclined
to you. I think you also
fall in love me.

ထိပ်ထားတို့ ဒီညပဲ
ဒီကနေ ထွက်ပြေးပြီး အခြား
တစ်နယ်တစ်ကျေးကျရင် လက်ထပ်
ထိမ်းမြားပြီး အတူနေကြရအောင်နော်...
ရင်းနှီးစားသောက်ဖို့ ထိပ်ထားမှာ ရတနာ
သေတ္တာလေးတစ်လုံး ပါပါတယ် ...

We will run away at this night and when
we arrive to other place we will
marry and live together. I have
a jewel box along with me
to invest and live.

အဲဒီအခါ ဗိုလ်နန္ဒက ညင်သာစွာခေါင်းခါသည်...

At that time he shaked his head gently.

ထိပ်ထား
ကျွန်တော်မျိုးမှာ ကျင့်ဝတ်သိက္ခာကိုစောင့်စည်းရမယ့်တာဝန်ရှိပါတယ်.. အရှင်သခင်အပေါ် သစ္စာမမဲ့လိုပါ ခံစားမှုနောက်လိုက်ပြီး ကျင့်ဝတ်ဖောက်ဖျက်တဲ့အလုပ် မလုပ်နိုင်ပါ ...

Your majesty. I have duty to control the moral dignity. I don't want to breach upon my Lord. I cann't do breach following passion.



ဗိုလ်နန္ဒဟာ ပြတ်သားစွာငြင်းပယ်လိုက်ပြီး နေပြည်တော်အရောက်မှာ သူချစ်ရတဲ့ မင်းသမီးလေးကို ဘုရင်ကြီးထံ တာဝန်ကျေပွန်စွာအပ်နှံလိုက်သတဲ့...

Bo Nanda denied definitely and when they arrived to the city he entrusted the princess to the king.





## စကားကို ကောင်းစွာပြောတတ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Speaking eloquently is auspicious

တစ်ခါက မိန်းမပျိုလေးသုံးဦးဟာ တောလမ်းခရီးတစ်ခုကို ဖြတ်သန်းလာကြရာက အရိပ်အာဝါသကောင်းလှတဲ့ ညောင်မုတ်ဆိတ်ပင်ကြီးဆီအရောက်မှာ ... At one time three young women crossed a jungle trip and when they arrived under a very good shade of drop roots of banyan tree.

လာဟော့ ဒီမှာ ခဏနားကြရအောင်..
Come here. We will rest for a while.




ကျွန် ကျွန်မကိုခွင့်လွှတ်ပါ
ရှင်..အသင်ဘီလူးမင်းရဲ့ပိုင်နက်
မှန်းမသိလို့ပါ..ကျွန်မက ဒီညောင်ပင်ရိပ်
မှာ မနားချင်ပါဘူး..သူ သူတို့ဆွယ်လို့
နားမိတာပါ..သူတို့မှာပဲ အပြစ်ရှိပါတယ်..
ကျွန်မကို ခွင့်လွှတ်ပါ..ဟင့် ဟင့်...
Forgive me. I don't know your own. I don't want to rest under this banyan tree. I rested because they persuaded me. They only have sins. Forgive me. Hint! Hint!


အဲဒီအခါ ဘီလူးကြီးဟာ အဲဒီ
မိန်းကလေးကိုလည်း ဘာမပြောညာ
မပြောနဲ့ ဖမ်းယူစားသောက်လိုက်ပြန်
တယ်..စားရင်း ဒီလိုတွေးတယ်...
At this time the ogre arrested and ate that girl without saying a world. He thought so eating.


ဟင်း ဟင်း မသိရင်
ခက်မယ်..သင်းတို့ ဒီအရိပ်အောက်
ဝင်မလာခင်ကတည်းက ငါစောင့်ကြည့်
နေတာ..အရင်ဦးဆုံး ဒီအပင်ရိပ်အောက်
မှာ နားဖို့ပြောတာ သူမှသူ..ခုတော့ ခေါင်း
ရှောင်ပြီး သူတစ်ပါးအပေါ် အပြစ်လွှဲချ
တယ်..လွှဲချဦးဟာ..
Hin! Hin! It will be difficult if I don't know. I watched before they enter under this shade. She is the first person who told to rest under this shade. Now she avoids responsibility and make over the sins other persons. Make over again.


Gyut!
အောင်မယ်လေး..သေပါပြီတော့..
Oh! My! Dying

တတိယမိန်းကလေးကတော့ တင်းတင်းမာမာ တုံ့ပြန်ခြင်း.. ငိုယိုတောင်းပန်ခြင်းလည်း မပြုလုပ်ဘူး.. လိမ်လည်းမပြောဘူး.. သူတစ်ပါးအပေါ် အပြစ်လည်းပုံမချဘူး.. ဘီလူးကြီးကို ချိုသာစွာပဲပြောဆိုပါတယ်

The third girl didn't make hard reply, didn't cry or didn't lie and she didn't make over. She told ogre sweetly.

အသင်ဘီလူးမင်း အရင်ဘဝက မကောင်းမှုတွေ ပြုလုပ်ခဲ့ပြီး အကုသိုလ်အားကြီးခဲ့လို့ အခုဘဝမှာ ဘီလူးဖြစ်နေရတယ် မဟုတ်လား

Oh! Ogre. You did wrong deeds in your past existence. So now you are ogre at the present life.

အခုဘဝမှာပါ ထပ်ပြီး သူတစ်ပါးရဲ့အသက်တွေကို သတ်ဖြတ်နေဦးမယ်ဆိုရင် သင် ငရဲလားရုံပဲရှိမှာပေါ့..

In this life you will kill others again and you have just to go to hell.

ကျွန်မကို သင်လွှတ်ခဲ့ရင် ကုသိုလ်ကောင်းမှုပြုတဲ့အခါတိုင်း ရှင် ဒီလိုဘီလူးဘဝက လွတ်မြောက်စေဖို့..

If you release me whenever I do for merit for you to be freed from ogre life.



ကျွန်မ အမျှ အတန်းပေးဝေပါ့မယ် ဒါကြောင့် ကျွန်မကို မသတ်ဘဲလွှတ်ပေးတာဟာ..

I will call to gain equal merit.



သင့်အတွက် ကောင်းမှုကုသိုလ် အခါခါပြုလုပ်ပေးမယ့်သူ တစ်ဦးကို မွေးဖွားပေးလိုက်တာနဲ့အတူတူပါပဲ..

This is the same to bear a person who will do merit for you.






အဲဒီလို အကျိုးသင့်အကြောင်းသင့် ပြေပြေလည်လည် ပြောပြတဲ့မိန်းကလေးရဲ့စကားကို ဘီလူးကြီးက သဘောကျသွားပြီး ဖမ်းယူစားသောက်ခြင်းမပြုဘဲ အသက်ချမ်းသာခွင့်ပေးလိုက်သတဲ့ကွယ် ...

Ogre was pleased for the reasonable and considerable words of girl and he did not arrest her and eat and he spared the life.



ကဲ ကလေးတို့ရေ.. စကားကိုကောင်းစွာပြောတတ်ခြင်းဟာ မင်္ဂလာတစ်ပါးဆိုတာကို ယုံပြီလား ...

Children. Do you believe that well spoken skill is auspicious.

# မိဘကို လုပ်ကျွေးပြုစုခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Looking after parents is auspicious















တစ်နေ့မှာတော့ ကန်တစ်ကန်နားမှာ သစ်ခုတ်ရင်း လက်ထဲက ပေါက်ဆိန်ဟာ ကန်ထဲလွတ်ကျသွားတော့တယ်တဲ့ ...
One day while he was cutting near the lake the axe in his hand dropped in the lake.




ပလုံ
Palon.


ဟာပေါက်ဆိန် ကျသွားပြီ.. ဒီကန်ကြီးက အနက်ကြီးလို့ပြောကြတယ်.. ငါ ရေမကူးတတ်တော့ ဆင်းမဆယ်ရဲဘူး
Har! The axe is dropped. It is said the lake is very deep. I cann't swim and cann't salvage.


ဒုက္ခပါပဲ.. ဒီပေါက်ဆိန်မရှိရင် ငါ့မိဘတွေကို ငါ ဘယ်လိုလုပ်ကိုင်ကျွေးရပါ့မလဲ.. အဖေတို့ အမေတို့ကို သနားလိုက်ပါဘိ ...
I have trouble. How shall I look after my parents without this axe. I feel pity for my parents.


မောင်တိုး ထိုင်မှိုင်ပြီး မျက်ရည်ကျနေတုန်းမှာပဲ ...
When Maung Toe was moping and dropping tears



ကန်စောင့်နတ်မင်းဟာ ကိုယ်ထင်ပြလာပြီး ••• The lake guard deity showed his body




ဒီလိုနဲ့ ကန်စောင့်နတ်ဟာ တန်ခိုးနဲ့ပေါက်ဆိန်ကို ရယူပေးတဲ့အပြင် ကန်ထဲမှာရှိတဲ့ ပတ္တမြားတစ်လုံးကိုလည်း လက်ဆောင်အဖြစ် ပေးသတဲ့ •••

So the lake guard deity get the axe with might and gave a ruby from the lake as a present.







မိဘကို လုပ်ကျွေးတဲ့ မောင်တိုးဟာ သိပ်ကိုပျော်ရွှင်သွားရတော့သတဲ့ ကွယ်•• ဒါကြောင့် မိဘကိုလုပ်ကျွေးပြုစုခြင်းဟာ မင်္ဂလာတစ်ပါးလို့ ဆိုတာပေါ့ ကလေးတို့ရယ် •••

Maung Toe who looked after was very happy. So it is said that looking after the parents is auspicious.



# သားမယားကို ထောက်ပံ့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Supporting wife and children is auspicious




သူဟာ အသောက်အစား လောင်းကစားမရှိဘဲ ရသမျှငွေကို မယားလက်ထဲအပ်တယ်...
He drank no alcohol or played no gambling and he entrusted money all he got to his wife.



သူ့မယားကလည်း ဇနီးကောင်းပီသသူမို့ လင်ယောကျ်ား ရှာဖွေပေးသမျှကို စိစိစစ်စစ်သုံးပြီး သားသမီးလေးတွေရဲ့ စားရေးဝတ်ရေး ပညာသင်ကြားရေးကို အဆင်ပြေအောင် စီမံပေးသတဲ့ကွယ် ...
Since his wife was also a good wife she economized her husband's earning and arranged for their children's living and education for convenient.





ကိုမြသာရဲ့ရိုးသားကြိုးစားမှု
သူတို့မိသားစုလေးရဲ့သာယာ
ချမ်းမြေ့မှုတို့ကိုကြည့်ပြီး
မြင်းလှည်းပိုင်ရှင် မုဆိုးဖိုကြီး
ဦးဘလူဟာ မျက်ရည်ကျမိ
သတဲ့ ...

Seeing Ko Mya Thar's hard working and the pleasure of his family the horse cart owner widower U Ba Lu dropped tears.



အင်း ငါ့တုန်းက
သူဌေးသားဖြစ်လျက် အလုပ်ကို
ကြိုးစားမလုပ်ဘဲ သုံးဖြုန်းသောက်စား
လောင်းကစားခဲ့တယ် ...

Inn! In my life I was rich son but
I didn't do the job hard and
I spent and drank and
gambled.



အိမ်ထောင်ကျ
ပြန်တော့လည်း သားမယား
ကို ကောင်းကောင်းမလုပ်ကျွေး
မထောက်ပံ့ခဲ့လို့ ငါ့မယားဟာ စိတ်
ဆင်းရဲကိုယ်ဆင်းရဲနဲ့ ရောဂါစွဲကပ်
သေဆုံးခဲ့ရတယ် ...

When I was married I didn't look
after and support my wife and
children. So my wife died of
poverty and suffering
from diseases.











နောင်တအရကြီးရတဲ့ ဦးဘလူဟာ နာမကျန်းဖြစ်ပြီးသေခါနီးမှာ သူပိုင်အိမ်နဲ့မြင်းလှည်းတွေကို ...

Regretful U Ba Lu was suffering and nearly die he gave his own house and horse carts



ကိုမြသာရဲ့လက်ထဲစာချုပ်စာတမ်းနဲ့ လွှဲပြောင်းပေးခဲ့သတဲ့ကွယ်

to Ko Mya Thar with agreement.





# အရှုပ်အထွေးမရှိသော အလုပ်ကိုလုပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Doing uncomplicated work is auspicious

တစ်ခါတုန်းက ရွာတစ်ရွာမှာ သူငယ်ချင်းနှစ်ယောက်ရှိတယ်။ . သူတို့နှစ်ယောက်စလုံးဟာ ကြီးပွားချမ်းသာလိုကြသူများဖြစ်တယ် ...

At one time there were two friends in a village. Both of them wanted to be rich.












ဦးကောက်ကြီးကမောင်ညိုကို ရွာအလွန် တောထဲက သူ့ရဲ့အရက်ဖိုကိုခေါ်သွားပြီးအရက်ချက်ခိုင်းတယ်..

U Kauk Kyi took Maung Nyo to his liquor house in the forest far from village and made him make liquor.



ချက်လို့ရတဲ့အရက်ပုန်းတွေကို ရွာနီးချုပ်စပ်ဆီ ဖြန့်ခိုင်းတယ် ...

U Kauk Kyi made him distribute the liquor made to neighbourhood villages.






ဘိန်းချက်ရောင်းခိုင်းတယ် ...
And made opium.


မဟုတ်တဲ့အလုပ်လုပ်ရင်း မောင်ညိုဟာ ကြီးပွားချမ်းသာစပြုလာတယ်.. မောင်ဖြူစင်ကတော့ သူ့ဝါသနာပါရာ သစ်သားပန်းပုထုတဲ့ပညာကို ဖခင်ပန်းပုဆရာဆီကနေ သင်ယူပြီး ...
Working wrong deeds Maung Nyo started to be rich. For Maung Phyu Sin he learnt the art of carving wood he interested from his father.


ရိုးရိုးသားသား ပန်းပုထုရောင်းရင်း အသက်မွေးတယ်..
He earned making sculpture simply.




အဲဒီလိုနဲ့ မကြာခင်တစ်
နေ့မှာတော့ သတင်းအရ
ရှာဆီရဲတွေရောက်လာပြီး
In this way one day before later the polices came to village by news


ဦးကောက်ကြီးကိုရော မောင်ညိုကိုပါ ဖမ်း
ဆီးသွားတော့တယ် ...
arrested U Kauk Kyi and Maung Nyo.


အဲဒီကာလမှာပဲ မောင်ဖြူစင် ထုလုပ်ပြီး မြို့ကပြပွဲမှာတင်
တဲ့ ပန်းပုရုပ်ကို သူဌေးကြီးတစ်ဦးက သဘောကျလွန်းလို့
ငွေအမြောက်အမြားပေးပြီး ဝယ်သွားသတဲ့ကွယ် ...
At this time an ivory figure made by Maung Phyu Sin was showed at a show in town. Then a rich man liked very much and bought by giving much money.
မောင်ညိုဟာ မမှန်ကန်တဲ့ ရှုပ်ရှုပ်ထွေးထွေးအလုပ်ကို လုပ်မိ
လို့ ထောင်ကျသွားပြီး မောင်ဖြူစင်ကတော့ အရှုပ်အထွေးမရှိ
တဲ့ အလုပ်ကိုလုပ်တဲ့အတွက် မင်္ဂလာအပေါင်းနဲ့ ပြည့်စုံသွားရ
တော့တာပေါ့ကွယ် ...
Maung Nyo was in prinson for doing wrong deeds and Maung Phyu Sin completed with auspicious associate for doing uncomplicated job.



## Giving support in charity is auspicious

# စွန့်ကြဲပေးကမ်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။














တစ်နေ့ နံနက်ခင်းမှာတော့ အပြင်ကို ကြွေး
တောင်းသွားစရာရှိတဲ့ ဦးဝဟာ ခြံထဲကအထွက်...

One day in the morning when U Wa went
out to ask debt



မထေရ်မြတ်တစ်ပါးဟာ အိမ်ရှေ့မှာ ဆွမ်းခံလာ
ရပ်သတဲ့.. ဒါကိုတွေ့တဲ့ ဦးဝဟာ မမြင်ဟန်ဆောင်
ပြီး ထွက်သွားမယ် အလုပ် ...

a noble monk stood in front of the house to
solicit food donation. When U Wa saw he
pretended not to see and set ready



ကိုရိုးဟာ သူ့အတွက်စားဖို့ပေးထား
တဲ့ထမင်းနဲ့ဟင်းကို မထေရ်မြတ်ရဲ့
သပိတ်ထဲ ဝမ်းမြောက်ဝမ်းသာ
လောင်းလှူလိုက်တယ်တဲ့...

Ko Yoe donated his rice and
curry given for him into the
monk's bowl willingly.






ရပါတယ် သူဌေးမင်း ခြံတံခါးကအမြဲ
ပိတ်ထားရတော့ အရင်ကဆွမ်းခံတာကို
မကြုံခဲ့ပါဘူးခင်ဗျာ.. အခုကြုံလို့ လောင်းလှူခွင့်
ရတာနဲ့ လှူလိုက်တာပါ ကျွန်တော့်အတွက်ထမင်း
တစ်နပ်မစားရလို့ ဘာမှမဖြစ်ပါဘူး..
It isn't much. Lord. Since the doors are always closed I never meet soliciting. Now I meet and I have chance to donate. So I donate. Nothing serious for I cann't eat one meal.


အေး
ဒါဆိုလည်း မင်းထိုက်နဲ့
မင်းကံပဲ ...
That's your matter and as your fortune.

ဒေါကန်ပြီး ထွက်သွားတဲ့သူဌေးကြီးဟာ
လမ်းမှာ ခြေထောက်ကို ညှောင့်စူးမိပြီး
The rich man was going out very angrily and he penetrate a thorn on the way.




အဲဒီဒဏ်ရာက ရင်းလာပြီး
ရက်ပိုင်းအတွင်း သေဆုံး
ကွယ်လွန်သွားရာက..
That wound was septic and died within days.

ဒါန သီလ ဘာဝနာ ဘာကုသိုလ်မှ မလုပ်ခဲ့သူမို့ ငရဲကိုကျ
သွားသတဲ့ ...
Then he fell to the hell because he didn't do for donation, precepts and meditation for deeds.






မောင်ရိုးကတော့ ဆွေမျိုးသားချင်းမရှိတဲ့
သူဌေးကြီးရဲ့အမွေကို ဆက်ခံခွင့်ရသွားပြီး
Maung Yoe had no relation and he
inherited the rich man's inheritance.


ချမ်းသာကြီးပွားသွားလေတော့ ပေးကမ်းလှူဒါန်းခြင်း
ကောင်းမှုတွေကို ဆထက်ထမ်းပိုး လုပ်ခွင့်ရပြီး ...
He became rich and he could give charity,
donate and do merit deeds more.


သက်တမ်းစေ့လို့ ကွယ်လွန်တဲ့အခါမှာတော့ နတ်ပြည်ကို
ရောက်သွားလေသတဲ့ကွယ် ...
When he fell to the death age and passed away
he came to celestial abode.


ဒါကြောင့် စွန့်ကြဲပေးကမ်း
လှူဒါန်းခြင်းဟာ မင်္ဂလာ
တစ်ပါးလို့ပြောတာပေါ့
ကလေးတို့ရယ် ...
Children. So it is said
that giving support
in charity is auspicious.

Striving good deeds in auspicious

# သုစရိုက်တရားကို ကျင့်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။




ရွာဆီဆန်အလှူခံဖို့ တောင်ပေါ်က ဆင်းလာတဲ့ ဖိုးသူတော်ဦးဝိုင်းက တွေ့တော့ . . .
Whiterobed deacon U Wine who sent off from the mountain to solicit rice from the village saw








မြင့်မိုရ်မေမေစာပေ

ဟဲ့ ငိုနေလို့အပိုပဲ.. အသက်ရှည်ချင်ရင် မကောင်းမှုဒုစရိုက်ကိုရှောင်.. သုစရိုက်တရားကိုကျင့်ကောင်းမှုကုသိုလ် သုစရိုက်အလုပ်တွေကိုလုပ်ကွယ့်...

It is superfluous for crying. If you want to be long life avoid the wrong deeds,strive for good deeds and do for merits.

သူတစ်ပါး အသက်မသတ်နဲ့.. သူတစ်ပါးရဲ့ အသက်ကိုကယ်.. ကောင်းတဲ့သုစရိုက်အလုပ်တွေလုပ်.. ဒါဆို အသက်တိုတဲ့ သေဘေးက လွတ်နိုင်တယ်ကွယ့်...

Don't kill other's life. Save other's life. Do for good deeds. And then you will be free from short life death.

ရွှေနီလည်း အဲဒီနေ့ကစပြီး မုဆိုးအလုပ်ကို စွန့်လွှတ်လိုက်ပြီး...

From that day Shwe Ni gave up the hunter job

သူ ထောင်ထားခဲ့တဲ့ထောင်ချောက်မှာမိနေတဲ့ သားကောင်လေးတွေကို လွှတ်ပေးလိုက်တယ် ...

and he released the small preys from the trap he ensnared.




ရေနည်းနေတဲ့ ရေအိုင်တွေထဲက ငါးလေးတွေကို ဆယ်ယူပြီး ရေများရာ ကန် ချောင်းတို့မှာ လွှတ်ပေးတယ်...
He salvaged the fishes from the lake with less water and released them in the lake in which much water is.




ရွာဆီအဝင် ရိုးတံတားလေး ကျိုးပျက်နေတာကို ပြင်ပေးတယ် ...
He repaired the broken bridge from the entrance of the village.


လူအများ သွားလမ်းအပေါ် ကိုင်းကျနေတဲ့ ညောင်ကိုင်းကြီးကို သစ်သားဒေါက်နဲ့ ထောက်ပေးတယ်...
He propped the branch of banyan tree bending over on the road with wood prop.


အဘွား ကျွန်တော့်ကိုပေး ဝိုင်းသယ်ပေးမယ်နော်..
Grandma. Give me. I will carry along with you.
ရွာထဲကရွာသူရွာသား တွေအပေါ်မှာလည်း ကောင်းတဲ့စိတ်ကိုထား ပြီး ကူညီစရာတွေ့ရင် စိတ်ပါလက်ပါ ကူညီ ပေးတယ် ...
He was good hearted on the villagers and helped willingly.


အဲဒီလိုကောင်းမြတ်တဲ့ သုစရိုက်အလုပ်တွေလုပ်ပြီး သုစရိုက်တရားကိုကျင့်တဲ့ အတွက် ရွှေနီလေးဟာ အသက်ငယ်ငယ်ရွယ်ရွယ်နဲ့ မသေရတော့ဘဲ အသက် တစ်ရာကျော်အထိ စိတ်လက်ချမ်းသာ နေထိုင်သွားသတဲ့ကွယ် ...
In such way he did good deeds and strives for good. So Shwe Ni did not die at the young age and he lived till over hundred years old in peace.

# ဆွေမျိုးသားချင်းတို့ကို ကူညီထောက်ပံ့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Supporting relation is auspicious












ဆွေမျိုးသားချင်းတွေကို
ကူညီထောက်ပံ့ဖို့တော့
ဝေးစွပေါ့ကွယ်.. ဒီလိုနဲ့
အိမ်ဖော်ကောင်မလေးနှစ်
ယောက်သာ ငှားထားပြီး
အထီးထီး သီးသီးသန့်သန့်
နေတဲ့ ဒေါ်ပန်းစိန်ဟာ..

It is very far to help and support the relation. In this way she hired two maids and seperately living Daw Pan Sein









သူ သတိလစ်သွားတဲ့အခါမှာတော့ သူ့ခေါင်း
အုံးအောက်နဲ့ အိပ်ရာအောက်မှာဝှက်ထားတဲ့
ငွေစက္ကူအထပ်တွေကို အိမ်ဖော်ကောင်မလေး
တွေက ယူပြီး ...

When she was uncautious the maids brought the pile of money under the pillow and bed.




သူ့ကိုပစ်ထားလို့ ထွက်ပြေးသွားတော့ သတဲ့ ...
They left her and ran away.


သူ ပြန်သတိရလာတော့ သူ့ငွေတွေကို မတွေ့တော့ဘူး ...
When she was cautious again she did not find her money.
ဟဲ့ ဝါနုတို့ ဗွေမတို့.. ဘယ်ရောက်သွားကြသလဲဟဲ့...
Hei! Where are Wa Nu and Bwe Ma?


အိမ်ဖော်ကောင်မလေးတွေက သူ့ငွေတွေခိုးပြေးပြီဆိုတာသိတော့ ဒေါသကြီးစွာဖြစ်ပြီး သတိပြန်လစ်သွားသတဲ့..
She came to know that the maids stole and ran away. So she was angry and uncautious again.


အဲဒီအခါ ဆွေမျိုးသားချင်းတွေက ဝိုင်းလာပြီး ပြုစုပေးကြသတဲ့
Then the relations came and nursed her.


ဆေးဆရာပင့်ပြီး ဆေးကု
ပေးကြသတဲ့ ...
They invited the
specialist respectfully
and cured her.


မကြာခင် သတိပြန်ရလာပြီး ဒေါ်ပန်းစိန်ဟာ
ရက်ပိုင်းအတွင်း နေထိုင်ကောင်းလာသတဲ့...
She was regained not later and
recovered within days.


အင်း တစိမ်း
ဆိုတာ ငွေရှိတုန်းပဲ ကိုယ့်အပေါ်ကောင်း
တာပါလား.. ဆွေမျိုးသားချင်းကျတော့ သွေးက
မနေဘူး.. ဘာမှမျှော်လင့်ချက်မရှိလည်းကူညီကြတယ်..
ငါမှားပြီ.. ဆွေမျိုးသားချင်းဆိုတာ ထောက်ပံ့ကူညီကောင်း
တဲ့သူတွေပါလား .. ဆွေမျိုးသားချင်းတို့ကို ထောက်ပံ့
ကူညီခြင်းဟာ မင်္ဂလာတစ်ပါးပါပဲလား ...
Inn! The strangers are good on me only when I have
money. For relation blood is blood.They help
without expectation. I am wrong. Relation
should be supported. It is auspicious
to support relation.


အဲဒီနောက်ပိုင်းမှာ ဒေါ်ပန်းစိန်ဟာ ဘဏ်မှာအပ်ထားတဲ့ငွေ
တွေထုတ်ပြီး ဆွေမျိုးသားချင်းတို့ကိုသင့်တော်သလို ထောက်
ပံ့ကူညီပြီး ဆွေနဲ့မျိုးနဲ့ သိုက်သိုက်ဝန်းဝန်းနဲ့ပျော်ပျော်ကြီး
နေသွားတော့သတဲ့ကွယ် ...
Later Daw Pan Sein took out her money from the
bank and supported relations properly and lived
with relations happily.

# အများအကျိုးကို ဆောင်ရွက်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Serving the humanit arian aid is auspicious

တစ်ခါတုန်းက ရွာတစ်ရွာမှာ မောင်မဲဆိုတဲ့လူငယ်လေး တစ်ဦးရှိသတဲ့.. မောင်မဲဟာ ဆွေမဲ့မျိုးမဲ့ အိမ်ခြေရာမဲ့သူလေးဖြစ်ပြီး ရုပ်ကလည်း ဆိုးသတဲ့ ...

At one time there was a young man named Maung Me in a village. Maung Me had no relation and was homeless and ugly man.



ဒါပေမဲ့ သူ့မှာချစ်စရာကောင်းတဲ့အချက်ရှိတယ်ကွယ့်.. အဲဒါကတော့ သူ့အတွက်အကျိုးအမြတ်ကိုမမျှော်ကိုးဘဲ ဘယ်သူ့ကိုမဆို စေတနာနဲ့ ကူညီလုပ်ကိုင်ပေးလေ့ရှိခြင်းပဲကွယ့် ...

But he had lovable character that he helped any body with good will without hoping for any benefit.



ထင်းပုံတွေ့ရင် ထင်းခွဲပေးတယ်...

When he found pile of firewood he chopped the firewood.



ရေဆိုလည်း ကူဆွဲပေးတယ်...
He helped and carried for water.




နွားစာလည်း ဝင်စင်းပေးတာပဲ ...
He chopped and helped for cow food.



ရွာထဲရပ်ထဲ သာရေးနာရေးဆိုလည်း ရှေ့ဆုံးကပါတာပဲ ...
He was from the top for social occation of joy or grief.



အဲဒီလို သူတစ်ပါးရဲ့အခက်အခဲမှန်သမျှ ကူညီလုပ်ကိုင်ပေးတတ်သူမို့ ရွာသူရွာသားတွေဟာ သူ့ကို အားလည်းကိုး..ခင်လည်းခင်ကြလေတော့ သူ့ရဲ့ ရုပ်ဆိုးတဲ့အဖြစ်ကိုတောင် မေ့နေကြသတဲ့ ...
In such way he helped other's all difficulties so the villagers relied him and liked him and forgot his ugly face.



မောင်မဲရဲ့ပရအကျိုး ထမ်းရွက်တတ်တဲ့စိတ်ထား
ကောင်းလေးကိုရော ဖွဲ့လုံ့လဝီရိယရှိမှုကိုပါ သဘောကျ
တဲ့လယ်ပိုင်ရှင်တစ်ဦးဟာ မောင်မဲလုပ်ကိုင်စားသောက်
ဖို့ လယ်တစ်ကွက်နဲ့ နွားတစ်ရှဉ်းပေးသတဲ့ ...

A land owner who liked Maung Me's good will
of performing other's benefit Industriously
he gave Maung Me a farm and pair of cattle.



မောင်မဲဟာ အများအကျိုးကိုလည်းလုပ်..
သူ့လယ်ကိုလည်း သူကြိုးစားလုပ်ရာက နှစ်
အနည်းငယ်အကြာမှာပဲ လယ်တွေအများကြီး
ပိုင်တဲ့ လယ်ပိုင်ရှင်သူဌေးကြီးဖြစ်လာပြီး ...

Maung Me did for others and his farm
and tried so he became a rich lands
owner after few years.





ဇနီးချောလေးတစ်ဦးနဲ့ လက်ဆက်
ရသတဲ့ကွယ်.. ဒါဟာအများအကျိုး
ကိုထမ်းရွက်တဲ့အတွက်ရပ်ဆိုးလေး
မောင်မဲဟာ မင်္ဂလာရှိသွားရတာပဲ
မဟုတ်လား ကလေးတို့ရေ ...

He married a beautiful wife.
This is ugly Maung Me was
auspicious because he
performed for other's benefit.
Don't it. Children.

# မကောင်းမှုကို စိတ်ဖြင့်ပင် ဝေးစွာရှောင်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Avoiding from wrong deed even in mind is auspicious











မောင်တိုးက ပြေးပြီး အဘိုးအိုကို ပွေ့ထူလိုက်တဲ့အခါ ...
When Maung Toe carried him in arms






နေကောင်းပုံမရတဲ့ အဘိုးအိုဟာ စကားမဆုံးခင်မှာပဲ
အသက်ထွက်သွားရှာတယ် ...
The old man who seemed ill died before
speaking words.



မောင်တိုးဟာ အဘိုးအိုရဲ့အထုပ်ကို ဖြည့်ကြည့်လိုက်
တော့ တကယ်ပဲ ရတနာတွေပါလာတာကို တွေ့ရတယ်
When Maung Toe opened the pack he found
the jewels really.




ဒီအဘိုးကြီး ဒီရွာဘုရားမှာ ဒါတွေလာလှူတာ ဘယ်သူမှမသိဘူး.. ငါ ဒီရတနာထည်တွေကို ယူလိုက်လို့ရတယ်.. ဒီရတနာထည်တွေသာ ငါရလိုက်ရင် ငါချမ်းသာပြီ..
Noone knows about the old man comes and donates to this village pagoda. I can take the jewel. If I get this jewel I will be rich.


အဲဒီလို လောဘဇောရှေ့ထား တွေးပြီးမှ သူ့အတွေးမှားနေပြီလို့ သတိတရား ပြန်ရလာတယ် ...
He thought so greedily and after that he perceived that he was wrong.


အို ဘုရားကို လှူမယ့်ပစ္စည်း သူတစ်ပါးရဲ့ ပစ္စည်းကို မပြစ်မှားကောင်းပါဘူး. ငါ ဒီလိုမကောင်းတဲ့စိတ် မထားသင့်ဘူး
Oh! I shouldn't be wrong for the things which will be donated for pagoda and other's things. I shouldn't have such evil mind.




မောင်တိုးဟာ အဲဒီလို အသိတရားရပြီး ရွာလူကြီးတွေဆီ အကျိုးအကြောင်း သွားပြောတယ်..
Maung Toe had such consideration and told the men from village about the circumstances.


ရတနာထုပ်ကိုလည်း အပ်လိုက်တယ် ...
He entrusted the jewel package.


ရွာလူကြီးတွေနဲ့ ရွာသူရွာသား တွေဟာ မောင်တိုးကို ရိုးသား သူအဖြစ် ချီးမွမ်းလို့မဆုံးတော့ ဘူးတဲ့ကွယ် ...
The men of the village and the villagers never ended praise Maung Toe as simple person.
မောင်တိုးဟာ မ ကောင်းမှုကိုစိတ်နဲ့ တောင် မကျူးလွန်မိ အောင် ရှောင်ရှားခဲ့ လို့ မင်္ဂလာအပေါင်း နဲ့ပြည့်စုံခဲ့တာပဲ မဟုတ်လား ကလေး တို့ရေ ...
Maung Toe avoided the wrong deed even in mind so he is auspicious. Children.

## မကောင်းမှုကို ကိုယ်၊နှုတ်တို့ဖြင့် ရှောင်ကြဉ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

**Avoiding from wrong deed physically or verbally is auspicious**














အဲဒီလို ရှန့်ရင်းကြမ်းတမ်းစွာ ကြိမ်းမောင်းဆဲဆိုလွှတ်တတ်သတဲ့ ...
She usually said very rudely.



တစ်နေ့မှာတော့ မဟုတ်မခံစိတ်ရှိတဲ့ ဈေးဝယ်သူတစ်ယောက်ကို အလေးခိုးပြီး ရောင်းလိုက်လို့ ပြဿနာတက်ရာက ... One day, she got problem by selling reducing in weight to a sensitive customer.











ဓားမနဲ့ခုတ်မယ်အလုပ် ဈေးဝယ်သူက စောစော ကတင်ဝယ်လာတဲ့ သား လှီးဓားချွန်နဲ့ ဆီးထိုး လိုက်တော့ ...
When she tried to chop with the knife the customer killed with a meat-chopping knife that she purchased just now.

ကဲဟယ်..
Kai Hei!

အမလေး..
Oh! My God!

စွပ်..
Swatt!



မကောင်းမှုကိုနှုတ်နဲ့ရော ကိုယ်နဲ့ပါ ကျူးလွန်မိကြတဲ့ သူတို့နှစ်ဦးမှာတစ်ဦးက ပွဲချင်းပြီး သေပြီး..
The two person who committed wrong deed physically and verbally, one died on the sopt and

တစ်ဦးက ထောင်ကျသွားရသတဲ့ကွယ်.. မင်္ဂလာမဲ့သွားကြရပြီ ပေါ့နော် ...
Another was sent to jail. So both of them are not auspicious.



# အရက်သေစာ မသောက်စားခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Refrain from drinking alcohol is auspicious













ဒီလိုနဲ့ မြို့ထဲဝင်ပြီး အထည်ရောင်းကြတဲ့အခါ အင်မတန်ရောင်းကောင်းကြတယ်တဲ့ ...
In this way, they entered the township centre and sold cloths. There were lots of customers.




ညနေလည်းစောင်းကာနီးရော မောင်ညိုဟာ အရက်ဆိုင်မှာအရက်တွေ အလွန်အကျွံသောက်ပြီး မူးရာက ... In the evening, Maung Nyo drank over dose and got drunk
ငါ့မျက်လုံးထဲ မြေကြီးက လှိုင်းထနေတယ်...
In my eyes, the earth is wave.
မှုမမှန်ဘူး..ကေန္တ မြေကြီးမူးနေပြီထင်တယ် အေ့...
It is unusual. I think the earth is drunk.


မူးမူးနဲ့သူများမြှောက်ပေးလို့ ဖဲဝိုင်းဝင်ထိုင်ပြီးရိုက်တော့ ...
He played cards in a condition because others told to play him.

ဟာ သေရော ကွာ...
Ha! So difficult.

အထည်ရောင်းရသမျှ ပိုက်ဆံတွေကုန်ပါရော
Then all the money that he sold cloths lost.

ညနေရောက်လို့ သူငယ်ချင်းနှစ်ယောက် အဲဒီမြို့ ကလေးကနေပြန်ကြရတော့ မောင်ဖြူမှာသာ အထည် ရောင်းရငွေနဲ့ အမြတ်ငွေ အပြည့်အဝ ပါလာပေမယ့်
When the two friends came back from that township in the evening, only Maung Phyu had profit completely.

မောင်ညိုမှာတော့ အရင်းရောအမြတ်ပါ ပြောင်ပြီမို့ ...
Maung Nyo lost his invest and profit.

ငါ ငါ မှားပါတယ် ကွာ. ငါမှားပါတယ်
I did wrongly. I did the wrong thing.

မောင်ဖြူဟာ အရက်သေစာကိုရှောင်ကြဉ်လို့ မင်္ဂလာ အပေါင်းနဲ့ ပြည့်စုံရတာပဲ မဟုတ်လားကွယ် ...
It is very auspicious for Mg Phyu because avoiding drinking alcohol.

# ကုသိုလ်တရားကို မမေ့မလျော့ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Mindfulness of meritorious deed is auspicious

တစ်ခါတုန်းက မောင်သက္ကဆိုတဲ့ လူငယ်လေးဟာ ကောင်းမှုတစ်ခုနေ့စဉ်ပြုရမယ်ဆိုတဲ့ ခံယူချက်နဲ့ တောစပ်ဆီထွက်လာခဲ့တယ် ...

Once upon a time, a youth called Mg Thet Ka came to a wood with an attitude that he must do one gocd thing every day.

ဒီလိုနဲ့လျှောက်လာရင်း လူတစ်ရပ်ကျော်ကျော်လောက်မြင့်တဲ့မြေတွင်းကြီးထဲမှာ လိပ်ကလေးတစ်ကောင် ကျနေတာကို တွေ့ရတော့တယ် ...

In that way, he saw a tortoise felling in a hole deep more than one person's height.







မောင်သက္ကဟာ လိပ်ကလေးကို ကူညီ
ကယ်တင်ချင်စောနဲ့ မြေတွင်းထဲဆင်းလိုက်
ပေမယ့်...
Mg Thet Ka entered into the hole with
the true spirit to help the tortoise


လိပ်ကလေးကိုပွေ့ပြီး ပြန်တက်မယ်လုပ်တော့ တွင်းက
ဇောက်နက်နက်ကြီးမို့ ပြန်မတက်နိုင်တော့ဘူး ...
When he tried to climb up again by carrying the
tortoise, he couldn't, because of heavy depth.
လိပ်ကလေးရေ.
ဒုက္ခပဲ ပြန်တက်ဖို့မလွယ်ဘူး
ကွ.. နေဦး အကူအညီတောင်း
ကြည့်မယ်...
Oh, small tortoise, we are in
trouble. It's not possible
to climb up again. Oh,
I'll take help.


ကယ်ကြပါဗျို့..
တွင်းထဲကနေ ထုတ်ပေးကြပါ
Please help me. Please
carry out of the hole.


မောင်သက္ကလေးရဲ့
အသံကို ဘီလူးကြီး
တစ်ကောင်က ကြား
သွားပါရော ...
The ogre heard Mg
Thet Ka's voice.
ဟာ လူသံပါလား
ဟီး ဟီး ဗိုက်ဆာနေတာနဲ့
အတော်ပဲ..
Har! One human's voice.
He! He! It's right my
hungry time.
Guee

ဒီလိုနဲ့ ဘီလူးကြီးဟာတွင်း
အဝကနေ လာငုံ့ကြည့်ပြီး

And the ogre looked down from the top of the hole



သူ့ရဲ့ရှည်လျားလှတဲ့ လက်ကြီးနဲ့ မောင်သက္ကကို
ဆုပ်ကိုင်ပြီး တွင်းပေါ်မတင်ကာ စားဖို့ပြင်တော့
တယ်တဲ့ ...

he took Mg Thet Ka with the help of his long hand and tried to eat him.



ဒီမှာတင် မောင်သက္ကလေးက တောင်းပန်
ရှာတယ် ...

At that time, Mg Thet Ka apologised.




ဘီလူးကြီးလည်းသဘောတူပြီး လိပ်ကလေးကိုလွှတ်လိုက်
တယ်.. ပြီးမှ မောင်သက္ကကိုစားမလို့ဟန်ပြင်ပြန်တဲ့အခါ..

The ogre agreed and released the tortoise. Then he prepared to eat Mg Thet Ka.



အို အသင်ဘီလူး
မင်း‌. . သူ့ကိုမစားရင်
ကျုပ်တွေ့ထားတဲ့ဥသိုက်ကြီး
ကို လိုက်ပြမယ်. . ကမ္ဘာလိပ်ကြီး
တွေ ဥထားတာလားတော့ မသိ
ဘူး‌. . ဥတွေက အများကြီးပဲ. .
Oh! Dear Ogre if you don't eat it, I'll show you its nest. There are lots of eggs there. I think the global tortoise laid down



ဟေ အေး သူ့ကို
စားရင် တစ်နပ်စာပဲရမယ်. .
ဥသိုက်ဆိုတော့ ဥတွေအများကြီး
စားရမယ် . . .
Yar! If I eat him I get only one meal. In the nest, I can eat lots of eggs.

ဟီ ဟီ. . ပွတာပဲ
ပွတာပဲ. . ဘယ်မှာလဲ
ဥသိုက်ပြစမ်း‌. .
Hi! Hi! That's full. Show me. Where's the nest?



မောင်သက္ကဟာ ဘီလူးကြီးကို မြစ်ကမ်းစပ်သောင်ပြင်ဆီခေါ်သွားပြီး. .
Mg Thet Ka brought the ogre to the river beach and

ဟော ဟိုက
ချုံပုတ်ရဲ့ဘေးမှာ
ဥသိုက်ကြီးရှိပါတယ်. . .
There was a big nest beside that bush.

တူးဖော်လို့
စိတ်ကြိုက်သုံးဆောင်တော်
မူပါ ဘီလူးမင်း‌. .
Please dig and serve yourselves.



ဘီလူးကြီးလည်း မောင်သက္ကကို
လက်ထဲကချပြီး ဥသိုက်ကို တူးယက်
ဖော်လိုက်တယ်ဆိုရင်ပဲ . . .
When the ogre put down Mg Thet Ka from his hand and digged the nest.

ဘီလူးကြီး တူးဖော်တဲ့အသိုက်ဟာ နဂါးသိုက်ကြီးဖြစ်နေတာမို့ ဥသိုက ထဲက နဂါးမကြီးဟာဒေါသတကြီးနဲ့ တဟုန်ထိုးထွက်လာတော့တယ်...

The nest that digged was dragon-nest and the female-dragon came out very angrily.







အဲဒီနောက်မှာတော့ ရောမနဂါးမကြီးက ဒေါသတကြီး လိုက်လို့ ဘီလူးဟာ ဖဝါးနဲ့တင်ပါးတစ်သားတည်းဖြစ် အောင် ပြေးရရောတဲ့ကွယ်.. မောင်သက္ကလေးလည်း အသက်ဘေးက ချမ်းသာရာရရောတဲ့ ...

Then, that dragon followed the ogre and so he ran quickly. And Mg Thet Ka became safe.



ကဲ ကလေးတို့ရေ မောင်သက္ကလေးဟာ ကုသိုလ်ကောင်းမှု ကိုမမေ့မလျော့ပြုလုပ်တဲ့အနေနဲ့ လိပ်ကလေးကို ကယ် တင်ခဲ့လို့ သူလည်း သေဘေးကလွတ်ပြီး မင်္ဂလာအပေါင်း နဲ့ပြည့်စုံခဲ့တာ မဟုတ်လားကွယ် ...

So dear children, Mg Thet Ka was safe and auspicious because he saved the small tortoise as a daily common benefit.

# ရိုသေအပ်သောသူကို ရိုသေခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

It is auspicious paying due respect to whom should be respected.









တစ်နေ့မနက်မှာတော့ အဘိုးအိုဟာ ပင်လယ်ပြင်ကြီးရဲ့အထက်က တိမ်တောင်တိမ်လိပ်တွေရဲ့အခြေအနေတွေကိုကြည့်ပြီး သတိပေးရှာတယ်

One morning, the old man gave warning by seeing cloudy condition above the sea.









ဒါပေမဲ့ အဘိုးအိုရဲ့စကားကို ဘယ်သူမှ အလေးထားခြင်းမရှိကြဘူးတဲ့. . ဒီလိုနဲ့ တံငါလေ့တွေ မနက်စောစောမှာပဲ ပင်လယ်ထဲ ထွက်သွားပြီး . . .

But no one listened the old man's words. And they sailed to the sea early morning...





ညနေစောင်းလို့ ငါးဖမ်းလှေတွေ ကမ်းဆီပြန်ကပ်လာတယ်ဆိုရင်ပဲ ရွာသူ
တွေဟာ သောင်ပြင်ဆီပြေးဆင်းသွားကြပြီး သူတို့ရဲ့လင်သားမောင်ဘွားတွေ
ကို ဝမ်းပန်းတသာ ကြိုကြတယ်‥ ကလေးတွေလည်း ပါသွားတယ်ပေါ့...

When they came back to the beach, the women from the village fetched their husbands and brothers happily altogether with their children.











သူ့ကိုလည်း မရှိသေ့ ။ သူ့ရဲ့ စကားကိုလည်း ဂရုမစိုက်တဲ့ ရွာသူရွာသား ကလေးငယ်တွေရဲ့အသက်ကို ကယ်တင်ဖို့သူ့မှာ အချိန်မရှိတော့ဘူး ...

There was no time to save villagers and children who ignored his words.




နောက်ဆုံး ကြံရာမရ အဘိုးအိုဟာ မီးတုတ်တစ်ခုကို မီးညှိပြီးရွာက အိမ်စုတ် တဲစုတ်အချို့ကို မီးရှို့တော့တယ် ...

Finally the old man burnt broken house and hut.





ရွာသူရွာသားတွေရော ကလေးတွေ
ပါ လန့်ဖျပ်ပြီး ရွာကုန်းဆီအပြေးအ
လွှား တက်ခဲ့ကြတော့တယ်တဲ့ ...

All the children and villagers
came back to the village fearfully.





ရွာသူရွာသားအားလုံး ရွာကုန်းဆီအရောက်မှာပဲ မုန်တိုင်းကြီး
ရုတ်တရက် ကျရောက်လာပြီး ...

As soon as all of them reached, there was a big strom.




သူတို့စောစောကရှိခဲ့တဲ့
သောင်ပြင်ကြီးတစ်ခုလုံးမှာ
လှိုင်းလုံးကြီးတွေ ဖုံးလွှမ်း
သွားတော့သတဲ့ ...

There were heavy
waves on whole the
beach where they
stayed just now.







နောက်ဆုံးမှာ အဘိုးအိုရဲ့ဖြတ်
ထိုးဉာဏ်နဲ့စေတနာကိုနားလည်
သွားကြပြီး ရှိသေထိုက်သူကို
မရှိသေမိကြတဲ့အပြစ်အတွက်
ခွင့်လွှတ်ဖို့ အဘိုးအိုကို ဝိုင်းပြီး
တောင်းပန်ကြရသတဲ့ကွယ်...

Finally, they all understood
the old man's intelligence
and kindness. Then they
apologised the old man to
forgive them.

# မိမိကိုယ်ကို နှိမ့်ချခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Self-humiliation is auspicious

တစ်ခါတုန်းက မင်းနေပြည်တော်မှာ အနယ်နယ်အရပ်ရပ်က စောင်းပညာရှင်ပေါင်းစုံ ပါဝင်ယှဉ်ပြိုင်တဲ့ အင်မတန်ကြီးကျယ်ခမ်းနားတဲ့ စောင်းအတီးပြိုင်ပွဲကြီး ကျင်းပသတဲ့ကွယ်...

Once upon a time, there was an arched harp competition in the royal city where mast of the arched harp musicians from different regions participated.

အဲဒီပြိုင်ပွဲကြီးမှာ နုနယ်ပျိုမြစ်ချောမောတဲ့ မောင်ဝဏ္ဏဆိုတဲ့ ကျေးတောသားစောင်းပညာရှင်လေးဟာ ပထမဆုကြီးကို ထိုက်ထိုက်တန်တန် ဆွတ်ခူးရရှိသတဲ့...

At that competition, very young arched harp musician called Mg Wana from a village got first prize fittingly.









ဘုရင်ကြီးနဲ့တကွ မှူးမတ်ပညာရှိတွေ ပညာရှင်တွေက ဝိုင်းဝန်းချီးမွမ်းကြပေမယ့် မောင်ဝဏ္ဏလေးဟာ ပညာမာန ထောင်လွှားမောက်ကြွားခြင်းမရှိဘဲ ရိုကျိုးတဲ့အမူအရာနဲ့ ဒီလိုလျှောက်ထားသတဲ့..
Even though other mandarins together with the king appreciated him, Mg Wana didn't show his pride and addressed obediently.


ကျွန်တော်မျိုးကို ချီးကျူးတာ ကျေးဇူးတင်ပါတယ် ဘုရား..ဒါပေမဲ့ ဒီတိုင်းပြည်တစ်ခွင်မှာ ကျွန်တော်မျိုးဟာ အတော်ဆုံး စောင်းပညာရှင် မဟုတ်ပါဘူး..
Thank you very much for your appreciation, the great King. But I am not the best one in this country.


ကျွန်တော်မျိုးထက်များစွာတော်တဲ့ပညာရှင်ကြီးရှိပါတယ် အရှင်မင်းကြီး..
There are lots of musician who are better than me.

အဲဒီလိုပြောပြီး မောင်ဝဏ္ဏလေးဟာ အဘိုးအိုတစ်ဦးကို ဘုရင်ကြီးရဲ့ရှေ့တော်မှောက်ဆီ တွဲခေါ်လာပြီး ...
After he told, he brought an old man in front of the King.






အဲဒီအခါ ဘုရင်ကြီးဟာ စောင်းဆရာကြီး ဦးဣန္ဒြာကို ဆုတော်ငွေများစွာ ချီးမြှင့်သလို ...

At that time, the King offered prize to the arched harp teacher U Eindra.



မိမိကိုယ်ကို နှိမ့်ချတတ်ပြီး ပညာမာန မထောင်လွှားတဲ့ မောင်ဝဏ္ဏလေးကိုလည်း ဆုတော်ငွေများစွာထပ်မံချီးမြှင့်သတဲ့ကွယ်

He also rewarded a lot of prize Mg Wana who didn't show his pride and stayed humbly.





ကဲ မိမိကိုယ်ကို နှိမ့်ချခြင်းဟာ မင်္ဂလာတစ်ပါးပဲ မဟုတ်လား ကလေးတို့ရေ ...

So, it is auspicious that stay yourselves humbly.

# ရှိသမျှနှင့်ရောင့်ရဲတင်းတိမ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Contentment upon own properties is auspicious

တစ်ခါတုန်းကမြို့ငယ်လေး
တစ်မြို့မှာချောမောလှပတဲ့
အပျိုစင်မိန်းကလေးသူငယ်
ချင်းနှစ်ဦးရှိသတဲ့ . .

Once upon a time,
there were two
beautiful single girls.

တစ်ယောက်ရဲ့နာမည်က မနှင်းဆီ ဖြစ်ပြီး
သူက အရမ်းကြီးပွားချမ်းသာချင်တယ် . .
ကောင်းပေ့ညွန့်ပေ့ဆိုတာမှ စားချင်တယ် . .
ဝတ်ချင်တယ် . . တိုက်တာနဲ့နေချင်သူဖြစ်တယ်

The name of one girl was Ma Hnin Si
who wanted to be wealthy and to live in
a higher standard.



နောက်တစ်ယောက်ရဲ့ နာမည်ကတော့ မစံပယ်တဲ့ . . သူ
လေးကတော့ ရှိတာလေးနဲ့လှအောင်ဝတ် . . ရတာလေးနဲ့
ဝအောင်စား . . ရောက်ရှိနေတဲ့ဘဝနဲ့ လိုက်လျောညီထွေ
နေတတ်သူလေးဖြစ်တယ်ကွယ့် . . .

Another one was Ma Sabe. She was content
and she wore beautifully with her own and ate
fully with her meal.





မြင့်မိုရ်မေမေစာပေ


ဟဲ့ စံပယ် ငါက
တော့ မိဘတွေဆင်းရဲပေမယ့် ဒီ
လိုဘဝမျိုးနဲ့ တစ်သက်လုံးမနေနိုင်ပေါင်
ချမ်းသာကြီးပွားမယ့်လမ်းကို ရှာရမယ်..
He! Sabe, even though my parents were poor, I could not live like that the whole life. I must search the way to be wealthy.


နှင်းဆီရယ်
အလုပ်းကျယ်အလယ်လပ်နေပါ့မယ်
သူငယ်ချင်းရယ်.. ရိုးသားကြိုးစားပြီး
ရှိသမျှနဲ့ ရောင့်ရဲတာဟာ အန္တရာယ်ကင်း
ပါတယ်ကွယ်..
Dear Hnin Si, it was the wrong idea. It was safe staying honestly and working hard and got contentment.


အို ငါကတော့
မကြီးပွား ကြီးပွားအောင်
လုပ်မှာပဲ.. ဘယ်နည်းနဲ့ဖြစ်ဖြစ်
ကြီးပွားချမ်းသာဖို့က အဓိကပဲ...
Oh, I would to be wealthy. It was important to be wealthy. I must use any way to be wealthy.


မနှင်းဆီဟာ ကြီးပွားချမ်းသာတဲ့ဘဝကို ရဖို့ သူ့ရဲ့အလှကိုဗန်းပြပြီး ချမ်းသာတဲ့လူ့အလွှာထဲ အတင်းတိုးဝင်ရာက လူချမ်းသာတစ်ဦးနဲ့ ညားသွားသတဲ့ ...
Ma Hnin Si got married a man from well to do family by showing hter beauty because she wanted to be wealthy.




မစံပယ်လေးကတော့ သူ အလုပ်လုပ်တဲ့စက်ရုံက
ဘဝတူလုပ်သားလေး မောင်လူအေးနဲ့လက်ဆက်ပြီး
ရိုးသားကြိုးစားစွာ ရှန်းကန်ရှာဖွေစုဆောင်းကြရာက

Ma Sabe got married with her coleague
from her factory, where they worked together.
They worked hard and saved money.



နှစ်အတန်ကြာလာတဲ့အခါ ရာထူးတွေလည်းတိုး..ဝင်
ငွေတွေတိုးပြီး အိုးပိုင်အိမ်ပိုင်နဲ့ တင့်တယ်ပျော်ရွှင်စွာ
နေထိုင်သွားရသတဲ့ကွယ် ...

Later on, they got promotion and they owned
their house and lived happily.





# သူတစ်ထူး၏ ကျေးဇူးကို သိတတ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Acknowledgement of other's gratitude is auspicious









မင်းသားလေးဟာ သူဆင်းရဲ
အဝတ်အစားတွေဝတ်ပြီး တိုင်းစွန်
ရွာဖျားကို ရောက်ရှိသွားရာက
သူ့ဘဝအတွက် ဝမ်းနည်းကြေကွဲ
လွန်းလို့ ကျောက်တုံးတစ်တုံးပေါ်
မှာထိုင်ပြီး ငိုနေရှာသတဲ့ ...

The prince wore like poor man and reached remote area of the country and sat on a stone and cried sadly.



အဲဒီအချိန်မှာ လူရွယ်တစ်ယောက် အနားကို
ရောက်လာပြီး ...
At that time, one youngster reached and







ကဲ ရော့ ရော့
ကျုပ်ရဲ့အဘိုး ဆေးဆရာကြီး
အမွေပေးခဲ့တဲ့ မျက်စိကုဆေး
တောင့်လက်ကျန်...
Take this. It is medicine given
by my grandpa who was
talent in medicine.
It is for visual
impairment.


ဒါလေးကို
ကျောက်ပျဉ်မှာသွေးပြီး
ညတိုင်းမျက်လုံးကို ကွင်းအိပ်..
သုံးရက်ဆိုမျက်လုံးပြန်မြင်ရလိမ့်မယ်
Grind it on a stony surface
and apply around your eyes
three days continuously,
you won't be
blind-boy.


ဆေးတောင့်လေးပေးပြီး
အဲဒီလူဟာ ထွက်သွား
ရောတဲ့ ...
After giving that
medicine, he left.


မင်းသားလေးလည်း အဲဒီလူ မှာခဲ့တဲ့
အတိုင်း ဆေးတောင့်ကို မျက်လုံးကွင်း
ပြီး သုံးညအိပ်လိုက်တာမှာ ...
The prince applied medicine
three days as that man told.


ဟာ..ငါ့မျက်လုံး
တွေ ပြန်မြင်ရပြီ..ဝမ်းသာ
လိုက်တာ..ဝမ်းသာလိုက်တာ..
Oh, My eyes can see again.
So happy. So happy.

မျက်လုံးပြန်မြင်သွားတဲ့ မင်းသား
လေးဟာနန်းတော်ဆီပြန်သွားတဲ့အခါ

The prince came back to the kingdom.



သူ့ရဲ့ဖခမည်းတော် ဘုရင်ကြီး ရုတ်တရက် နတ်ရွာစံ
သွားချိန်နဲ့ ကြုံကြိုက်နေတဲ့အတွက် ...

At that time, his father the king died,



မှူးမတ်တွေက မင်းသားလေးကို ဘုရင်အဖြစ် တင်မြှောက်လိုက်
ကြတယ်တဲ့...

So the king's the counsellor heads elected him as their king.



အဲဒီနောက် သုံးလေးနှစ်အကြာမှာ တစ်ဖက်နိုင်ငံနဲ့ နယ်နိမိတ်ကိစ္စ
အငြင်းပွားပြီး စစ်ဖြစ်တော့ ...

After three -four years later, there was a fighting with neighbour country for border dispute.





တစ်ဖက်နိုင်ငံက ရန်သူ
တပ်သားအချို့ကို ဖမ်း
မိလာခဲ့ကြတယ်. . သူတို့
ကို ရှေ့တန်းစခန်းမှာ
ရောက်နေတဲ့ဘုရင်လေး
က. . .

The soldiers from
opposite country
were arrested. The
king who was in
friontior camp

သတ်ဖြတ်ကွပ်မျက်ခြင်း မပြုမီ ကိုယ်တော်တိုင်
တစ်ဦးချင်း စစ်ဆေးသတဲ့ ... check them
individually before they were killed

အခြားသူတွေကို စစ်ဆေးပြီး ခပ်ပိန်ပိန် လူတစ်ဦး
ရဲ့အလှည့်ကို ရောက်လာတယ် ...

After checking others, the turn was for a
thin man.

မောင်မင်းရဲ့
နာမည်ဘယ်သူလဲ. .
What's your name?

စက္ခုပါ. .
Sakhu!

နာမည်က
အဆန်းပါလား. . စက္ခု
ဆိုတာ မျက်စိပဲ. .
The name was strange.
Sakhu means
eyes.


ဟုတ်ပါတယ်.. ကျွန်တော်မျိုးဟာ တစ်ချိန်က မျက်မမြင်တွေကို မျက်လုံးမြင်အောင်ကုသပေးဖူးလို့ စက္ခုလို့ အမည်တွင်နေတာပါ..
Yes. My name became Sakhu, because I cured the blinds to see again.




အဲဒီတော့မှ ဘုရင်လေးဟာ အဲဒီလူရဲ့အသံကိုမှတ်မိသွားပြီး..
Then, the king recognized that man's voice.
ဟာ ဒါဆို သင်ဟာ ကျွန်ုပ်ရဲ့မျက်လုံးပြန်မြင်လာအောင် ကုညီခဲ့သူပဲ
Ha! So you helped me to see again.


ဘုရင်လေးဟာ သူတစ်ထူးရဲ့ကျေးဇူးကို သိတတ်သူမို့ အဲဒီလူနဲ့တကွ အကျဉ်းသားအားလုံးကို အကျဉ်းကလွှတ်လိုက်ပြီး ...
The king was grateful to others, so he released all prisoners together with that man.
လွှတ်စေ..
Release all!


စကျူကို ဆုတော်ငွေမြောက်များစွာ ပေးကာ သူ့ရဲ့နိုင်ငံသို့ ပြန်ပို့ပေးလိုက်တယ်တဲ့
He rewarded a lot of money as prize and back his country.


နှစ်နိုင်ငံ စစ်ပြေငြိမ်းအောင်လည်း ဆောင်ရွက်ကြိုးပမ်းသတဲ့ ...
And tried to get peace between two countries.


တစ်ဖက်နိုင်ငံက ဘုရင်ကြီးကလည်း ကျေးဇူးသိတတ်တဲ့ ဘုရင်လေးကို လေးစားသွားပြီး စစ်ပြေငြိမ်းလိုက်သတဲ့ကွယ် ...
The king from the opposite country all agreed to be peaceful because he appriciated the young king who knows others' gratitude.
အဲဒါဟာ ကျေးဇူးသိတတ်ခြင်းကြောင့် မင်္ဂလာအပေါင်းနဲ့ပြည့်စုံတာပဲ မဟုတ်လားကွယ် ...
So, it is right that knowing gratitude to others is auspicious.

# သင့်လျော်သောအခါ တရားနာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Listening to religious sermon at the appropriate time is auspicious









သူ့ရဲ့ကျောင်းသခ်န်းဆီ ဖေးမတွဲ ခေါ်လာပြီး..
Brought him to the sylvan monastery



ဆေးလိမ်း ဆေးထည့် ဆေးကုပေးရင်း ...
applied medicine and



ပါဏာတိပါတာ သူတစ်ပါးရဲ့အသက်ကိုသတ်ဖြတ်ခြင်းက ရှောင်ကြဉ်ဖို့ တရားဟောသတဲ့ ...
preached Panartipatar moral principal: to avoid killing other's lives.



အိပ်ရာပေါ်မှာ မလှုပ်မယှက်ဖြစ်နေတဲ့ မုဆိုးကြီးဟာ တစ်ခါမှ ဒီလို တရားမနာဖူးဘူး. တရားနာဖို့လည်း စိတ်ကူးမရှိဘူး. ခုတော့မလှုပ်ရှားနိုင်ဖြစ်ပြီး တရားနာဖြစ်သွားတော့တာပေါ့..
The hunter lying on never got preaching and never thought to be preached. Now, he couldn't move any more and had to listen the moral principle.




အဲဒီလို တရားနာလိုက်တယ်
ဆိုရင်ပဲ အသိတရားနောင်တ
တရားတွေရပြီး အကျွတ်
တရား ရသွားသတဲ့ ...
When he finished
listening moral principle,
he got repentance.


ဒါကြောင့် မုဆိုးဘဝကို စွန့်လွှတ်
ပြီး သမ္မာအာဇီဝကောင်းသော
အသက်မွေးမှုပြုဖို့ ဆုံးဖြတ်လိုက်
သတဲ့ကွယ် ...
So he save up hunting and
decided to live in a proper
way.
ငါ ဒီနေ့ကစပြီး
မုဆိုးဘဝကို ရာသက်ပန်
စွန့်လွှတ်လိုက်ပြီ ...
I give up my hunter
life today.


စိတ်ကြမ်း လူကြမ်း မုဆိုးကြီး
ဟာ သင့်လျော်တဲ့အချိန်မှာ
တရားနာဖြစ်သွားတဲ့အတွက်
မင်္ဂလာရှိသွားတော့တာပေါ့
ကလေးတို့ရယ် ...
It is auspicious that very
rude hunter did listening
to religious sermon at
the appropriate time.
သာဓု သာဓု
သာဓု..
Well done!
Well done!
Well done!

## အရာရာသီးခံခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Bearing for all is auspicious

တစ်ခါတုန်းက တောနယ်က ပန်းချီဆရာလေး မောင်ရှုပဟာ သူ ရေးဆွဲထားတဲ့ ပန်းချီကားတွေကိုပိုက်ပြီး မင်းနေပြည်တော်ဆီ တက်လာခဲ့တယ်တဲ့ကွယ်. . .

Once upon a time, painter Mg Yu Pa from a village came to the royal city by bringing his paintings.



သူ့ရဲ့ရည်ရွယ်ချက်ကတော့ နန်းသုံးတော်ဝင် ပန်းချီပညာရှင် အကျော်အမော်တစ်ဦး ဖြစ်ဖို့ပါပဲ . . .

His aimed to become a famous painter in the royal.



သူတို့ရဲ့ရွာမှာ ရသေ့လာဝတ်ပြီး တရားကျင့်ကြံတဲ့ တစ်ချိန်က နာမည်ကျော် ပန်းချီဆရာကြီးဟာ မောင်ရှုပလေးကို ပန်းချီပညာ သင်ပေးတုန်းက ဆုံးမစကား ပြောခဲ့ဖူးတယ် . . .

When one famous painter came to his village to be hermit, he taught Mg Yu Pa how to paint and said sermon.



မောင်ရှုပလေးဟာ သူ့ဆရာကြီးမကွယ်လွန်မီက ပြောကြားခဲ့တဲ့သတိပေးစကားကို စိတ်မှာမှတ်သားရင်း ရွှေမြို့တော်ဆီလာခဲ့ပြီးနောက် ...
Mg Yu Pa bore in mind words that his teacher told him before he died and came to the city.












မှူးမတ်တွေနဲ့ လက်ရှိတော်ဝင် နန်းသုံး ပန်းချီဆရာတွေက မောင်ရှုပလေးကို ဝိုင်းနှိမ်ပြီး မှိုချိုးမျှစ်ချိုးပြောတဲ့အပြင် သူ့ပန်းချီကားတွေကို ပြန်ယူ သွားခိုင်းတယ်တဲ့ ...
The royal counsellers and royal painters told him humbly and pushed to take his paintings.
မောင်ရှုပလေးဟာ ဘာမှပြန်မပြောဘဲ သည်းခံပြီး သူ့ပန်းချီကားတွေကို ပြန်ယူလာခဲ့တယ်..
Mg Yu Pa took his paintings by telling nothing.


အဲဒီနောက်ရွှေမြို့တော်ရဲ့ဈေးကြီးထဲမှာ ပန်းချီကားတွေ ခင်းကျင်းပြတော့သတဲ့ ...
Then he displayed his paintings in the royal city market.


အဲဒီအချိန်မှာ မင်းနေပြည်တော်ဆီ အလည်အပတ်ရောက်ရှိနေတဲ့ နိုင်ငံခြားတိုင်းပြည်ကြီးတစ်ပြည်က ယဉ်ကျေးမှုပညာရှင်အဖွဲ့ဟာဈေးကြီးထဲ လျှောက်ကြည့်လေ့လာရင်း..
At that time, one cultural technicians groups from foreign country visited to royal city observed around the market and..







အဲဒီသတင်းဟာ တစ်ဈေးလုံးပြန့်သွားရာက နောက်ဆုံး ဘုရင်ကြီးရဲ့ရွှေနားတော်အထိ ပေါက်ကြားသွားတော့တာပေါ့ . . အဲဒီမှာတင် ဘုရင်ကြီးဟာ မောင်ရှုပလေးကို သူ့ရဲ့ရှေ့တော်မှောက်ဆီ ဆင့်ခေါ်ပြီး . . .

That news spread quickly and heard the king. So the king called Mg Yu Pa in front him.



မောင်ရူပ ခင်းကျင်းပြသတဲ့ ပန်းချီကားတွေကို ရှင်ဘုရင်ကြီးက သဘောကျလွန်းလို့ ...

The king liked paintings that Mg Yu Pa displayed and



ဆုတော်လာဘ်တော် များစွာပေးပြီး ပန်းချီကားတွေ အားလုံးကိုလည်း ဝယ်ယူလိုက်တယ်တဲ့ကွယ် ...

rewarded a lot of prizes and bought all the paintings.





# ဆိုဆုံးမလွယ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Easy in admonishment is auspicious

တစ်ခါတုန်းကချမ်းသာတဲ့မိဘတွေက အလိုလိုက်ခံထားကြရတဲ့ မောင်စနေနဲ့ မောင်ပြေသာတို့သူငယ်ချင်းနှစ်ယောက်ကို ဒိသာပါမောက္ခဆရာကြီးဆီမှာပညာသင်ကြားဆုံးမပေးဖို့ မိဘတွေက အပ်နှံကြသတဲ့ကွယ် ...

Once upon a time, the two friends called Mg Sanay and Mg Pay Thar favoured for admonishment by their parents were entrolled at the professor.

သူတို့နှစ်ယောက်စလုံးဟာ မိဘတွေရဲ့အစွမ်းကုန် အလိုလိုက်ခြင်း ခံထားရလို့ ဆိုးကြတာချင်းတူပေမယ့် ...

Both of them were favoured by their parents but

ကျောင်းလစ်ပြီး ထွေသွားပစ်ကြမယ်ကွာ ပြေသာ

Pay Thar, let's leave the school and play games.

အေး လုပ်လိုက်လေ..ကြာသလားလို့...

That's right idea. Let's start soon.



မောင်စနေဟာ ပင်ကိုယ်
စရိုက်ဆိုးသူလေးမို့
ဆရာကြီးက ဘယ်လို
ပြောပြဆုံးမလို့မှ မရဘဲ
တစ်နေ့တခြား ပိုလို့သာ
ဆိုးလာသတဲ့..

Mg Sanay has got bad character so the professor couldn't admonish him and became worse day by day.



ကြာရင် ငါ့
ကျောင်းပါ မီးရှို့မယ့်ကောင်..
မိဘရဲ့လက်ထဲ ပြန်အပ်လိုက်တာပဲ
ကောင်းပါတယ် ...

It's best to return to his parents, otherwise, he will burn my school.



မောင်ပြေသာကတော့ မိဘအလိုလိုက်လွန်းလို့သာ ဆိုးခဲ့ရပေမယ့် စိတ်သဘောထား နူးညံ့ကောင်းမွန်သူမို့ ဆရာကြီးရဲ့သွန်သင်ဆုံးမမှုကို တဖြည်းဖြည်း နားဝင်ပြီး လိုက်နာလာတယ်တဲ့ကွယ် ...

Mg Pay Thar was bad because of his parents' favour, he has got gentle in mind, he listened the professor' words gradually followed.




သူတို့တွေအရွယ်ရောက်ပြီး ကြီး ပြင်းလာတဲ့အခါကျတော့ မိဘဆရာ သမားတို့ ဆိုဆုံးမလို့မရတဲ့ မိမနိုင် ဖမနိုင် ဆရာမနိုင် မောင်စနေဟာ လူဆိုးဓားပြကြီးဖြစ်သွားပြီး ...
When they grown up, Mg Sanay became robber because he didn't listen the teacher's admonishment.
သေသွားမယ် ဘာမှတ်လဲ..
You'll die. How dare you?
အီး အင့်
Eii!


ထောင်နန်းစံသွားရ သတဲ့ကွယ် ...
Then he was sentenced in jail.


ဆိုဆုံးမလွယ်သူ မောင်ပြေသာ ကတော့ ပညာတတ်ကြီးဖြစ်ပြီး ကြီးပွားချမ်းသာသွားသတဲ့ ကွယ်...
Mg Pay Thar who is easy in admonishment became educated person and became wealthy.

# ရဟန်းမြတ်တို့ကို ဖူးမြော်ရခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Worshipping the noble monks is auspicious


















နောက်ဆုံးမှာ ရဟန်းတော်မြတ်ကို ဖူးမြင်ရတဲ့ ဘိုးထိန်ဟာ သားသတ်သမားအလုပ်ကို စွန့်လွှတ်ပြီး ကောင်းရောင်းကောင်းဝယ်လုပ်ရင်း တရားကျင့်ကြံတဲ့ တရားသမားဖြစ်သွားရတယ်တဲ့ကွယ် ...

Finally, Pho Htain who had chance to face the noble monk gave up meat- killing job and do other appropriate profession and became a saint.







## သင့်လျော်သောအခါ တရားစကားဆွေးနွေးမေးမြန်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

The discussion on dispensation at the appropriate time is auspicious












လပြည့်ညရောက်တော့ သူကြီးဧည့်ခံကျွေးမွေး တာကို စားဖို့သောက်ဖို့ ရောက်လာကြတဲ့ ရွာသူ ရွာသားတွေနဲ့ ...

On the full moon day night, he introduced villagers who came to eat that he served



တရားဟောဓမ္မကထိကနဲ့ မိတ်ဆက် ပေးပြီး..

with Damma lecturer






ရွာသူရွာသားတွေလည်းကောက်ညှင်းပေါင်းစားရင်း သိလိုသမျှ မေးကြမြန်းကြရာက တရားစကား မေးမြန်းပွဲလေးဟာ မြိုင်ဆိုင်စည်ကားသွားတော့သတဲ့ ...

The villagers asked what they wanted to know by eating streamy sticky rice, the discussion became active.



အဲဒီလို လပြည့်လကွယ် နေ့ထူးနေ့မြတ်တွေမှာ တရားဓမ္မနားလည်သူနဲ့ တရားဆွေးနွေးမေးမြန်းကြရင်း ရွာသူရွာသားတွေဟာ အသိအလိမ္မာတွေတိုးပြီး စရိုက်ကြမ်းတဲ့သူတွေအဖြစ်ကနေ သိမ်မွေ့ယဉ်ကျေးသူတွေ ဖြစ်လာကြသတဲ့ကွယ် ...

In this way, very rude villagers became gentle by discussing and questioning religious sermon on full-moon days.



# ခြိုးခြံချွေတာခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Austerity practise is auspicious




ကိုသာယာနဲ့မယ်ကျော့တို့ လင်မယားဟာဈေးထဲမှာရွှေဆိုင်ဖွင့်ထားလို့ ဝင်ငွေကောင်းပေမယ့် လင်မယားနှစ်ယောက်စလုံး အင်မတန်အသုံးအဖြုန်းကြီးပြီး လက်ဖွာသတဲ့ ...

Ko Tharyar and Mei Kyawt couple got good earning because of their gold-selling in the market but both them used money wastely.









သူတို့ရဲ့အိမ်နီးချင်းကိုလူအေး
နဲ့မဖြူတို့လင်မယားကတော့
ဈေးထဲမှာ ကုန်စိမ်းရောင်း
ပေမယ့် ...
Their neighbours, Ko Lu Aye and Ma Phyu couples were green grocessors in the market.
အလုပ်ကိုကြိုးကြိုး
စားစားလုပ်သလို
အရာရာ ခြိုးခြံချွေတာ
သုံးစွဲပြီး ..
but they worked hard and saved money


ဝယ်သူမကြိုက်တဲ့ခပ်
နွမ်းနွမ်း ကန်စွန်းရွက်ပဲ
ကြော်စားကြတာပေါ့..
We should eat green-leaves that customers don't want to buy.


ငွေကြေးစုဆောင်းတတ်သူ
လောင်းကစားကင်းသူတွေ
ဖြစ်တယ်ကွယ့် ...
They loved saving money and never did gambling.

အဲဒီလိုနဲ့ ကြာလာတဲ့အခါကျတော့ ပရမ်းပတာ သုံးဖြုန်းနေတဲ့ မယ်ကြော့တို့လင်မယားဟာကြွေး တင်သည့်ထက်တင်ပြီး အိမ်ရောဆိုင်ရောရောင်း လိုက်ရလို့ အိုးမဲ့အိမ်မဲ့ဖြစ်သွားရတော့တယ်တဲ့..

Later on, Mei Kyawt couple, big money users, got in debt and sold their house and became homeless.




ချွေတာတဲ့ မဖြူတို့လင်မယားကတော့နှစ်အနည်း ငယ်အတွင်း အိမ်အပိုင်ဝယ်နိုင်တယ်.. ဈေးထဲမှာ ရွှေဆိုင်တောင် ထောင်လာနိုင်တော့တယ်တဲ့ကွယ်...

Ma Phyu couple, money savers, can purchase their own house and they can settle gold-selling shop also.



ဒါကြောင့် ချွေတာခြင်းဟာ မင်္ဂလာတစ်ပါးလို့ ပြော တာပေါ့ကွယ် ...

Therefore, economy is auspicious.



# မြတ်သောအကျင့်ကို ကျင့်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Striving noble deed is auspicious










ဝိနည်းနဲ့အညီ မနေထိုင်ဘဲ သူနေချင်သလိုနေသတဲ့.. ဆွမ်းခံပြီး ဆွမ်းကိုတနင့်တပိုးစား..
He did not stay according to the noble deeds, he stayed as he liked and ate food fully.
အူမတောင့်မှ သီလစောင့်မှာ..
After the stormach is full, can obseve the precept.


ပြီးရင် တစ်နေကုန်သင်္ကန်းခြုံပြီးအိပ်
Then the whole day, he slept by covering the robe.


ညရောက်တဲ့အခါ ဆရာတော် လစ်ရင်လစ်သလို မနက်ကချန်ထားတဲ့ ထမင်းဟင်းတို့ကိုစားတာပဲတဲ့...
At night, he ate some food left in the morning if the abbot was not near.


ကြာတော့ ဒီရဟန်းရဲ့ အကျင့်တွေကို ရပ်ရွာကပါ ကြားသိကုန်သတဲ့
Later on, public knew about that monk's habit.

အဲဒီတော့ ရပ်ရွာက အကြည်ညိုပျက်လာပြီး ခေမာနန္ဒရဟန်းဟာ ဆွမ်းလောင်းမယ့်သူ မရှိဘူးဖြစ်လာသတဲ့ ...

So public did not admire and there were no one to offer food to Khay Mar Nanda monk.




ခေမာနန္ဒရဲ့သတင်းဆိုးတွေ ကြားပြီးကျောင်းထိုင် ဆရာတော်ကြီးက ခေမာနန္ဒကို ကျောင်းကနေ နှင်ထုတ်လိုက်သတဲ့ ...

The abbot heard Khay Mar Nanda's news and expelled him from the monestry.



ကောင်းမြတ်သော အကျင့်ကိုကျင့်တဲ့ တိဿရဟန်းကိုတော့ ရွာသူရွာသားတွေက ကြည်ညိုသည်ထက် ကြည်ညိုကြပြီး ဆွမ်းကွမ်းမပြတ်အောင် ထောက်ပံ့ကြသတဲ့.. ဒါဟာ မြင့်မြတ်တဲ့အကျင့်ကိုကျင့်လို့ မင်္ဂလာနဲ့ပြည့်စုံရတာပဲမဟုတ်လားကွယ် ...

Titha monk, strived noble deeds was admired by the villagers and offered food continously. So, striving noble deeds is auspicious.



# အရိယသစ္စာကို သိမြင်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Knowing the noble truth of ariya is auspicious

တစ်ခါတုန်းက ရဟန်းပျိုတစ်ပါးဟာ လောကီထုပ္ပတ်လူတို့ဇာတ်ရဲ့ အရှုပ်အထွေးတွေကို စိတ်ပျက်ပြီး ငြီးငွေ့တဲ့အတွက် တောထွက်ပြီး တစ်ပါးတည်း ကေစာရီကျင့်ကာ တရားအားထုတ်နေသတဲ့ . . .

Once upon a time, one young monk disappointed very twisted human affairs and relieved oneself in the wood.



အဲဒီတောထဲမှာရှိတဲ့ ဥစ္စာစောင့်မလေးညီအစ်မခုနစ်ဖော်ဟာ ရဟန်းပျိုလေးရဲ့ အသရေတော်ကို သဘောကျပြီး . . .

At that wood, there were seven spirit grandians and they lived that monk's grace.






အင်မတန်လှပတဲ့ ဥစ္စာစောင့်မလေးတွေဟာ သူတို့ရဲ့ အလှနဲ့မြူဆွယ်တယ် ...

Those very beautiful spirit guardians persuated with their beauty.



သူတို့ ဘယ်လိုပဲ မြူဆွယ် မြူဆွယ် ရဟန်းပျို လေးဟာ မတုန်လှုပ်ဘူးတဲ့ ...

Those very beautiful spirit guardians presuaded with their beauty.





ဟွန့် အလှနဲ့လည်း
ဖမ်းစားလို့မရ . မွှေးပျံ့တဲ့ရနံ့ပေး
လည်းမရ . ခက်ပါလား . .

Honn! We couldn't trap with our beauty. Also with our smell. So difficult.

ဥစ္စာစောင့်မလေးတို့ရဲ့ ညည်းညူ
သံကိုကြားလိုက်ရသူ ရဟန်းပျို
လေးက ...

When the young monk heard spirit guardians' groan..

အို ဥစ္စာစောင့်တို့
ငါဟာ အရိယသစ္စာကို သိမြင်
သူဖြစ်တယ် . . ဒါကြောင့် သင်တို့
ငါ့ကိုဘယ်လိုမှ မြှူဆွယ်လို့မရစေရဘူး

Oh, I understand the loyality of saintly person. so you can never persuade me.


အရိယသစ္စာ
ဆိုတာဘာလဲ
ရှင်းပြစေချင်ပါတယ်
Please explain, what is the loyality of saintly person?


အရိယသစ္စာဆိုတာ
ဒုက္ခ..သမုဒယသစ္စာ..
နိရောဓသစ္စာနဲ့ မဂ္ဂသစ္စာတွေပဲဖြစ်တယ်...
The loyality of saintly person is loyality of trouble, loyality of attachment, the loyality of attainment a cessation inmental activity and the loyality of pathway to nirvana attained by eratdication of defiling assions.


အဲဒီသစ္စာလေးပါး
တရားကို သေသေချာချာ
နက်နက်နဲနဲ စဉ်းစားတွေးမြင်
ပြီးတဲ့နောက်...
After considering deeply these four loyalities.







အဲဒီမှာတင် ဥစ္စာစောင့်မလေးတွေဟာ စိတ်ပျက်ပြီးလက်မှိုင်ချလို့

In this way the spirit guardians disappointed and gave up



တောနက်ထဲဝင်
ရောက်ပျောက်
ကွယ်သွားကြ
တော့သတဲ့ကွယ်..

and
disappeared in
the deep forest.



## နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။
### Perceive the way to nirvana is auspicious








အဲဒီလို သရဏဂုံတင်ရင်း ရဟန်းပျိုလေးဟာ အသုဘအလောင်းကြီးကို စေ့စေ့ ကြည့်မိရာက သေခြင်းတရားကို အင်မတန် ကြောက်ရွံ့သွားတော့တယ်တဲ့ ...

Observing act of taking refuge the young monk looked the dead body in detail he feared for death most.



ကျောင်းကိုပြန်ရောက်တဲ့အခါ အသုဘမြင်ကွင်းကြီးကိုပဲ မြင်ယောင်နေပြီး ညညကျ အိပ်မပျော်ဘူးတဲ့...

When he came back to monastery he saw only funeral view in his eye sight and he couldn't sleep at night.




ကိုယ်တော် ဘာဖြစ်လို့လဲ။ ညက လည်းတစ်ညလုံး ကောင်း ကောင်းမအိပ်ဘူး။ ညည်းညူ လိုက် သက်ပြင်းချလိုက်နဲ့ဘာဖြစ် နေတာတုန်း။
What are you happening Ko Daw? You didn't sleep well at night. Groaning, sighing. What happened?


သေ သေရမှာကို ကြောက်နေမိလို့ပါ။
I was fearing to die.


အဲဒီရဟန်းတော်ရဲ့သတင်းဟာ ဆရာတော်ရဲ့နားဆီ ရောက် သွားတော့သတဲ့ ...
The news of this monk was heard by the abbot.


အဲဒီမှာတင် ဆရာတော်ဟာ ရဟန်းပျိုကိုခေါ်ပြီး ဆုံးမသတဲ့ကွယ်..
Then the abbot called and taught.


ပဥ္စင်းငယ်
သင်ဟာ သေခြင်းတရား
ကိုကြောက်ရွံ့ရင်...
Young monk
if you fear for
death.


သေခြင်းတစ်ဖန်
ပဋိသန္ဓေနေရခြင်းဆိုတဲ့ ဝဲဩ
ဂ သံသရာက လွတ်မြောက်စေရန်
နိဗ္ဗာန်ကိုမျက်မှောက်ပြုနိုင်ဖို့ ကြိုး
ပမ်းပေတော့...
You should strive to attain
Nirvana at this moment
for freedom from samsara
that starts pregancy
after death.


ရဟန်းပျိုလေးဟာ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်စေဖို့ တရား
ဓမ္မတွေကို လေ့လာလိုက်စား ကျင့်ကြံအားထုတ်ရင်း အေး
ငြိမ်းမှုရရှိသွားတော့တယ်တဲ့ကွယ် ...
The young monk studied damma and strived to
attain Nirvana at present moment and got peace.



## လောကဓံနှင့် ကြုံသော်လည်း စိတ်မတုန်လှုပ်ခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## To stay steady and calm whenever you encounter mishap, is auspicious









ဒါပေမဲ့ နောက်နေ့မှာပဲ
သူ အပိုင်စားရတဲ့မြင်းက
ခြေနဲ့ကန်လို့ ...

But the next day the horse he owned kicked.

ဖောင်း
Phoung!

အား
Ar!

မောင်စက္ကရဲ့ခြေတစ်ဖက်
ကျိုးသွားသတဲ့...

Maung Sakka's one leg was broken..

ငါ့နှယ်
ကံဆိုးလှချေလား

I am bad lucky.

အဲဒီအချိန်မှာ သူတို့
တိုင်းပြည်နဲ့အခြားတိုင်း
ပြည် စစ်ဖြစ်တော့ ...

At that time their
country fought battle
with other country.

အိုနာကျိုးကန်း
နဲ့သက်ကြီးရွယ်အိုကလွဲလို့
ယောကျ်ားမှန်သမျှ စစ်ထဲဝင်ပြီး
တိုက်ရမယ်...
Except the old and the broken
persons all men must
fight in the battle.

မောင်စက္ကဟာ ခြေကျိုးနေလို့ စစ်ထဲ
မလိုက်ရဘူး. စစ်ထဲလိုက်သွားရတဲ့သူ
အားလုံးလိုလိုဟာ ကျဆုံးကုန်သတဲ့...

Since Maung Sakka's leg was
broken he didn't follow to the war.
Almost all fighters died in the battle.








ဒါပေမဲ့ မောင်စက္ကတို့ဘက်က စစ်ရှုံးသွားပြီး
တစ်ဖက်နိုင်ငံက မောင်စက္ကတို့နိုင်ငံကိုသိမ်း
ပိုက်ရရှိသွားတဲ့အခါ ဖမ်းမိသူအားလုံးကို
ရန်သူတပ်မင်းက တန်းစီရပ်ခိုင်းသတဲ့...
But Maung Sakka side lost the war
and other country seized the nation
of Maung Sakka. Then the enemy
military head ordered them all of the
arrested persons to queue and stand.


မိန်းမတောင်
မရသေးဘူး သေရတော့
မယ် ဟင့်...
Even I have not wife.
I have to die.


ကျန်တဲ့သူတွေဟာ မျက်နှာတွေ အပျက်ကြီးပျက်ပြီး ကြောက်ရွံ့
တုန်လှုပ်နေပေမယ့် မောင်စက္ကကတော့ လုံးဝမတုန်လှုပ်ဘဲ အေး
ဆေးတည်ငြိမ်နေတာကို ရန်သူတပ်မင်းက သတိပြုမိသွားသတဲ့..
The rest persons lost face greatly and feared but
Maung Sakka didn't tremble at all and was peace and
silent. So the military head noticed and


အသင်ဟာ
အတော်ထူးခြားပါလား..
အသတ်ခံရမလား လွတ်မှာလား
မသေချာတဲ့အခြေအနေမှာ စိုးရိမ်ပူ
ပန်မှု..ကြောက်ရွံ့ထိတ်လန့်မှုမရှိတာ
ဘာကြောင့်များလဲ ...
You are strange. Why don't
you fear and worry in the
situation whether you
will be killed or
get free.






ရန်သူတပ်မင်းဟာ လောကဓံရဲ့နိမ့်လိုက် မြင့်လိုက် ပြောင်းလဲတတ်တဲ့သဘောကို ဆင်ခြင်မိပြီး သံဝေဂရသလို...

The enemy military head considered the low and high way to of the mundane world and repented



မောင်စက္ကရဲ့လောကဓံနဲ့ကြုံပေမယ့် စိတ်မတုန်လှုပ်ခြင်းကို သဘောကျပြီး မောင်စက္ကနဲ့အတူ ဖမ်းမိသူအားလုံးကို အသက်ဘေးကနေ ချမ်းသာခွင့်ပေးလိုက်သတဲ့ကွယ် ...

he liked that Maung Sakka didn't tremble though he met way to of the mundane world and released all the arrested persons with Maung Sakka.



# စိုးရိမ်သောက မရှိခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Without worry is auspicious

တစ်ခါတုန်းက ကုန်တင်လှေတစ်စင်းဟာ ပင်လယ်မှာ မုန်တိုင်းမိပြီး နစ်မြုပ်မလိုဖြစ်နေတော့ ...

At one time a cargo boat was nearly sunk by storm in the sea.



လှေပေါ်ပါလာသူအားလုံးဟာ ကြောက်ရွံ့ထိတ်လန့် စိုးရိမ်ခြင်းကြီးစွာနဲ့ ဆောက်တည်ရာမရဖြစ်နေကြတယ် ...

All of persons on the boat frightened and worried and couldn't observe.




လှေပဲ့ကိုင် မာလိန်မှူးဟာ လူငယ်တစ်ဦးဖြစ်ပေမယ့် သူဟာ အခြားသူတွေလို တုန်လှုပ်ချောက်ချားခြင်းမရှိဘဲ တည်တည်ငြိမ်ငြိမ်နဲ့ လှေပဲ့ကိုထိန်းနေခဲ့တယ်

Although the marine navigator of the boat was a young man he didn't frighten and control the boat serenely.




လှေဆီပြေးဝင်လာတဲ့ရေမ
လှိုင်းလုံးကြီးတွေကို လှေ
ဦးနဲ့ထိုးခွဲပစ်တယ် ...
He hit the big wave
directed to the boat with
the boat head.
ဗွမ်း
Bwan


နာရီအတော်ကြာမှာတော့ မုန်
တိုင်းစဲသွားပြီး လှေနစ်မြုပ်
မယ့်ဘေးက လွတ်သွားကြ
တော့တယ်...
After a long hours the
storm stopped and freed
from sinking boat.


မာလိန်မှူးရဲ့အစွမ်း
ဖွဲသတ္တိကြောင့် တို့တွေ အသက်
ဘေးကနေ သီသီလေးလွတ်တာ..
Because of the ability and
zeal and zest of marine
navigator we got just
free of life danger.
မာလိန်မှူး
သင်ရော ကျုပ်တို့လို
မစိုးရိမ်ဘူးလား..
Marine Navigator
Don't you also
worry like us?


ကုန်သည်တစ်ယောက်က မေးလိုက်တော့ မာလိန်မှူးလူငယ်က အေးအေးဆေးဆေး အမူအရာနဲ့ ပြန်ဖြေလိုက်တယ် ...
When a trader asked the young marine navigator answered serenely.
အခက်အခဲနဲ့ ရင်ဆိုင်ရတဲ့အခါ စိုးရိမ်ကြောက်လန့်နေရင် ...
If I worried and frightened when I face with difficulty


တစ်ဝက်ရှုံးပြီးသားဖြစ်သွားမယ်.. ဒါကြောင့် အရှုံးမခံနိုင်လို့ ကျွန်တော်ကစိုးရိမ်မှုကိုရှေ့တန်းမတင်ဘူး.. အောင်မြင်အောင်ပဲ ကြိုးစားတယ်...
it will be half loss. So I cann't lose and I didn't keep worry first. I tried to success.


အဲဒီလိုပဲ ဘဝမှာ ကြုံလာသမျှ ဒုက္ခပြဿနာတွေကိုလည်း စိုးရိမ်သောကကင်းစွာ စိတ်ကိုတည်တည်ငြိမ်ငြိမ်ထားပြီး ရှင်းသင့်တယ်..
In this way the troubles and problems met in life should be settled without worry and serenely.



# ရမ္မက်မြူကြောင်းခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

Lacking passion is auspicious

တစ်ခါတုန်းက သင်္ဘောဆိပ်ကမ်းရှိတဲ့ ရွာတစ်ရွာမှာ မောင်ပြည့်ဝဆိုတဲ့ ဖြူစင်ရိုးသားဖြောင့်မတ်တဲ့ ကုန်ထမ်းသမားလေးတစ်ယောက် ရှိတယ် ...

At one time there was a labourer named Maung Pyae Wa who was sincre and lived in a village had a jetty.



သူဟာ အင်မတန် ရိုးသားသူဖြစ်လို့ ကုန်သည်တွေက သူတို့ရဲ့ကုန်တွေကို အတော်အတန် ဝေးလံတဲ့နေရာပို့ဖို့ လိုအပ်လာရင် မောင်ပြည့်ဝကိုပဲ ယုံကြည်စိတ်ချစွာ ထမ်းပို့စေပြီး လုပ်အားခ မြက်မြက်ကလေး ပေးသတဲ့ ...

Since he was very simple person when the traders needed to send their goods to quite far places they made Maung Pyae Wa carry and they were reliable and they gave alert money for carriage charge.








တစ်နေ့မှာတော့ ကုန်သည်ကြီးတစ်ယောက်ဟာ ထင်းရှူး
သေတ္တာပုံးတစ်ပုံးကို အခြားရွာတစ်ရွာဆီ ပို့ခိုင်းတယ်...

One day a trader told him to carry a pine box to other village.



အထဲမှာ ကွဲရှတတ်တဲ့
ပစ္စည်းပါတယ်နော်.. ဂရုစိုက်သယ်
သွားပြီးငါ့မိန်းမရဲ့လက်ထဲအရောက်ပို့..
စိတ်ချမယ်နော် မောင်ပြည့်ဝ...

The thing which can be easily broken includes in this box. Take care carriage and send to my wife's hand. I will be assured. Maung Pyae Wa.





မောင်ပြည့်ဝဟာ အတော်အတန်
လေးတဲ့ ထင်းရှူးသေတ္တာကြီးကို
ထမ်းလာရာက...

Maung Pyae Wa was carrying a quite heavy box.

လမ်းတစ်ဝက်အရောက်မှာ
မြေပြင်ပေါ် သေတ္တာကိုချ
ပြီး ခေတ္တနားနေတုန်း...

and he laid it on the way and he rested.









မောင်ပြည့်ဝဟာ အံ့အားကြီးသင့်ပြီး သေတ္တာကို ရအောင် ဖွင့်ကြည့်လိုက်တယ်ဆိုရင်ပဲ သေတ္တာထဲမှာ မိန်းမချောလေး တစ်ဦးကို မယုံနိုင်ဖွယ် တွေ့ရတော့တယ်.. ကောင်မလေး က သေတ္တာထဲက ထွက်လာပြီး ...

Maung Pyae Wa was very surprised and he opened the box till he could and he found a beautiful girl in he box unbelieable. The girl got out of the box.









အဲဒီအကြောင်းကို ကုန်သည်ကြီး ပြန်ကြား ရတဲ့အခါ မောင်ပြည့်ဝကို လေးစားစွာ ချီးကျူးသတဲ့...
When the trader heard about the event he praised Maung Pyae Wa respectfully.

အင်း
မောင်ပြည့်ဝဟာ သူ့ရဲ့ အတ္တလောဘ ရမ္မက်အတွက်
Inn! Maung Pyae Wa is such a simple person...

မသန့်ရှင်းတဲ့စိတ် မြူလောက်တောင် မရှိတဲ့ လူရိုးလူဖြောင့် လူတော်လေးပဲ.. ရှာမှရှားတဲ့ တကယ့်ယောကျ်ားပါပဲ
that he has no evil spirit even about a mist for his selfish and greedy passion. He is really a rare man to find.

# ဘေးရန်မရှိခြင်းသည် မင်္ဂလာတစ်ပါးဖြစ်၏။

## Living without danger is auspicious

တစ်ခါတုန်းက ရွာတစ်ရွာမှာ အသိအမြင်ကြွယ်ဝတဲ့ ရွာလူကြီးတစ်ဦး အုပ်ချုပ်လျက်ရှိတယ် ...

At one time a head man of wisdom ruled in a village.



အဲဒီ ရွာလူကြီးဟာ သူ့ရဲ့ရွာသူရွာသားတွေကို အမြဲ ဆုံးမလေ့ရှိတယ်တဲ့ ...

That head man always taught his villagers.




တစ်ဦးကိုတစ်ဦး နှုတ်နဲ့
ဖြစ်ဖြစ် ကိုယ်အမူအရာနဲ့ဖြစ်ဖြစ်
စော်ကားရင် တစ်ဦးကြောင့် အခြား
တစ်ဦး နစ်နာဆုံးရှုံးမှုဖြစ်ရင် ပြဿနာ
ပေါ်မှာပဲ ရန်ပွဲတွေ ဖြစ်မှာပဲ ...
If one person insulted to another person verbally or physically and one person lost because of other person there will occur fighting.


အဲဒီလို
အငြိုးအတေး ဘေးရန်ရှိ
ရင် မငြိမ်းချမ်းဘူး. စိတ်လက်
မချမ်းသာဘူး. အမြဲစိုးရိမ်ကြောင့်
ကြ သောကရှိနေမယ်...
If there is such grudge and danger it will not be peaceful and will not get pleasure and will be always worried.


ဒါကြောင့်
လောဘ ဒေါသ မောဟကို ရှေ့တန်း
မတင်ပါနဲ့. တစ်ဦးနဲ့တစ်ဦးမစော်ကား
မထိပါးမိအောင် ဆင်ခြင်ပြီးနေကြပါ ...
So don't keep greedy, anger, ignorance in front. Consider and live not to insult and touch wrongly each other.






ရွာသူရွာသားတွေဟာ သူတို့ရွာလူကြီးရဲ့ ဆုံးမစကားကို နားထောင်ပြီး တစ်ဦးနဲ့တစ်ဦး မစော်ကား မထိပါး မိအောင် ဆင်ဆင်ခြင်ခြင် နေကြတယ်။ စာနာစိတ် ကိုယ်ချင်းစာစိတ်နဲ့ ဆက်ဆံကြတယ် ...

The villagers listened the head man's teaching and control not to insult and touch wrongly each other. They treated with sympathy.

ဒါကြောင့် အဲဒီရွာလေးဟာ
ထာဝရ အေးချမ်းပြီး ဘေးရန်
ကင်းလျက်ရှိတော့သတဲ့ကွယ်။

So that village was always
peaceful without danger.



The End.

